- ဗုဒ္ဓဘာသာသည် သိပ္ပံနည်းကျပါသလား။
- ဗုဒ္ဓဘာသာသည် အတွေးအမြင် အယူအဆ ဒဿနတစ်ခု သက်သက်လား။
- ဗုဒ္ဓသည် ဖန်ဆင်းရှင်ဘုရားမဟုတ်လျှင် အဘယ့်ကြောင့် ဗုဒ္ဓကို ကိုးကွယ်ဆည်းကပ်ကြပါသနည်း။
- ဗုဒ္ဓသည် ဇနီးနှင့် သားငယ်ကို စွန့်ပစ်ခဲ့သည့်အတွက် လူသားတာဝန်မကျေသူဟု ဆိုနိုင်ဘူးလား။
- ဘဝတစ်ဖန် ပြန်လည်မွေးဖွားခြင်းနှင့် ပတ်သက်၍ သက်သေ အထောက်အထားများ ရှိပါသလား။
- စကြဝဠာ၏ အစနှင့်ပတ်သက်၍ ဗုဒ္ဓက မည်သို့ပြောခဲ့ပါသလဲ။
- ဘဝကို ဒုက္ခဟု မြင်ခြင်းသည် မကောင်းမြင်ဝါဒဟု မယူဆနိုင်ဘူးလား။



ခေတ်အမြင်
ဗုဒ္ဓဘာသာဆိုင်ရာ
အမေးအဖြေများ

ဒေါက်တာသိန်းလွင်

Than Myint Aung 2005



# ခေတ်အမြင် ဗုဒ္ဓဘာသာဆိုင်ရာ အမေးအဖြေများ

## ဒေါက်တာသိန်းလွင်

**GOOD QUESTIONS, GOOD ANSWERS**

by

VEN SHRAVASTI DHAMMIKA



ဗုဒ္ဓဘာသာနှင့်ပတ်သက်၍
ဗုဒ္ဓဘာသာဝင်မဟုတ်သော နိုင်ငံခြားသားများ၏အမြင်ဖြင့် မေးမြန်းချက်များ
ဩစတြေးလျနိုင်ငံမှ ထေရဝါဒ ဗုဒ္ဓရဟန်းတော် V.S Dhammika ၏ ဖြေကြားချက်များ

တတိယအကြိမ်

**ပုံနှိပ်မှတ်တမ်း**

စာမူခွင့်ပြုချက်အမှတ် · ၃၂၀၅၃၇၀၅၀၇
မျက်နှာဖုံးခွင့်ပြုချက်အမှတ် · ၃၂၀၅၄၆၀၅၀၉

မျက်နှာဖုံးဒီဇိုင်း သန်းမြင့်အောင်
ကွန်ပျူတာ လင်းဦးတာရာမီဒီယာ
အတွင်းဖလင် ရဲငွေး
ထုတ်ဝေသူ ဦးအောင်စိုးမင်း၊
လင်းဦးတာရာစာပေ၊
အမှတ် ၇၄၊ အနော်ရထာလမ်း၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။
မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်သူ ဦးဇော်မြင့်ဝင်း၊ ကာလာဇုန်ပုံနှိပ်တိုက်
အမှတ် ၁ဂ၄(ဘီ)၊ ၃၃ လမ်း(အထက်)
ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။
ပုံနှိပ်ခြင်း တတိယအကြိမ်
အောက်တိုဘာ၊ ၂၀၀၅ ခုနှစ်။
အုပ်ရေ ၁၀၀၀
တန်ဖိုး ၆၀၀ ကျပ်


# ခေတ်အမြင် ဗုဒ္ဓဘာသာဆိုင်ရာ အမေးအဖြေများ

ဒေါက်တာသိန်းလွင်

GOOD QUESTIONS & GOOD ANSWERS
by
Ven. Shravasti Dhammika

# မာတိကာ

## အမှာစာ

နိုင်ငံခြားတိုင်းပြည်များရှိ ထေရဝါဒ ဗုဒ္ဓရဟန်းတော်များတွင် ဩစတြေးလျလူမျိုး အရှင်ဓမ္မိက (Ven. Shravasti Dhammika) သည် ထင်ရှားသော ရဟန်းတော်တစ်ပါး ဖြစ်ပါသည်။ အရှင်သည် ဗုဒ္ဓတရားတော်ကို လိုက်လှဲစွာ ယုံကြည်မြတ်နိုးသူဖြစ်ပါသည်။ ပါရမီအခံရှိသူ ဖြစ်သဖြင့် ငယ်ငယ်ရွယ်ရွယ်နှင့်ပင် လောကီစည်းစိမ် ချမ်းသာများကို စွန့်လွှတ်လိုက်ပါသည်။ မြင့်မြတ်သော ရဟန်းဘဝကို ခံယူနေထိုင်ပါသည်။

အရှင်သည် ရဟန်းတရားနှင့်အညီ ကျင့်ကြံအားထုတ်နေထိုင်ရုံမျှမက ဗုဒ္ဓတရားတော် ပြန့်ပွားရေးကိုလည်း အစွမ်းကုန်ကြိုးစား ဆောင်ရွက်လျက်ရှိပါသည်။ ဩစတြေးလျနိုင်ငံနှင့် အာရှနိုင်ငံအချို့ရှိ တက္ကသိုလ်များတွင် ဗုဒ္ဓတရားတော်အကြောင်း ဟောပြောပို့ချလျက်ရှိပါသည်။ ထို့မျှမက ထိုနိုင်ငံများရှိ ရုပ်မြင်သံကြားဌာနများနှင့် အသံလွှင့်ဌာနများမှ တစ်ဆင့် ဗုဒ္ဓတရားတော်အကြောင်း ဟောပြော ဖြန့်ချိလျက်ရှိပါသည်။

အရှင်မေဓ္ဓကသည် ဗုဒ္ဓတရားတော်အကြောင်း စာအုပ်စာတမ်းများလည်း ရေးသားပြုစု ထုတ်ဝေပါသည်။ ယင်းတို့တွင် Good Questions, Good Answers အမည်ရှိ စာအုပ်လည်း ပါဝင်ပါသည်။ ထိုစာအုပ်ကို ကျွန်တော်နှင့် ခင်မင်ရင်းနှီးသော ပါမောက္ခ ဒေါက်တာသိန်းလွင် (ပညာရေးစိတ်ပညာဌာန၊ ပညာရေးတက္ကသိုလ်)သည် နိုင်ငံခြားမှပြန်လာသော သူ့မိတ်ဆွေတစ်ဦးထံမှ မေတ္တာငှားယူ ဖတ်ရှုကြည့်ရာ နှစ်သက်သွားပါသည်။ ထိုစာအုပ်ကို မြန်မာဘာသာ ပြန်ဆို၍ မြတ်မင်္ဂလာစာစောင်တွင် လစဉ်အခန်းဆက် ဖော်ပြနိုင်လျှင် အကျိုးရှိလိမ့်မည်ဟု ယုံကြည်မိပါသည်။ သို့ဖြင့် မိတ်ဆွေ ပါမောက္ခ ဒေါက်တာသိန်းလွင်အား မြန်မာဘာသာပြန်ဆိုပေးပါရန် မေတ္တာရပ်ခံပြီး **'ခေတ်အမြင် ဗုဒ္ဓဘာသာဆိုင်ရာ အမေးအဖြေများ'** ဟူ၍ အမည်ပေးကာ မြတ်မင်္ဂလာတွင် လစဉ်ဖော်ပြခဲ့ပါသည်။

ယခုအခါ ပါမောက္ခဒေါက်တာသိန်းလွင်၏ ဘာသာပြန်ဆိုချက်များကို မြတ်မင်္ဂလာတွင် အစအဆုံး ဖော်ပြပြီးပါပြီ။ ယင်းတို့ကို အလွယ်တကူတစ်ပေါင်းတည်း ဖတ်ရှုနိုင်ရန်သော်လည်းကောင်း၊ စာအုပ်အဖြစ် လက်ဆွဲပြုနိုင်ရန်လည်းကောင်း စာအုပ်အဖြစ် ယခု ထုတ်ဝေလိုက်ပါသည်။

ဤမူရင်းစာအုပ်မှ အချို့ကို ရန်ကုန်မြို့၊ ချမ်းမြေ့ရိပ်သာ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း မြန်မာဘာသာပြန်ဆို၍ စာအုပ်ထုတ်ခဲ့ပါသည်။

ဤစာအုပ်သည် မြန်မာစာဖတ် ပရိတ်ဆွေများ၊ အထူးသဖြင့် ခေတ်လူငယ်များအတွက် တစ်စုံတစ်ခုသော အတိုင်းအတာအထိ အကျိုးပြုနိုင်လိမ့်မည်ဟု မျှော်လင့်ယုံကြည်ပါသည်။ ထေရဝါဒ ဗုဒ္ဓတရားတော်ကို နိုင်ငံခြားသားများ ခေတ်အမြင်ဖြင့် မည်သို့သုံးသပ် ခံယူ၍ မည်သို့ကျင့်သုံးကြသည်ကိုလည်း အကဲခတ် သိရှိနိုင်လိမ့်မည်ဟု ထင်မြင်မိပါသည်။

ဖေငြင်းယုဓေ

အယ်ဒီတာချုပ်

မြတ်မင်္ဂလာစာစောင်

၁-၈-၉၄

# ဗုဒ္ဓဘာသာ

**မေး။ ဗုဒ္ဓဘာသာဆိုတာ ဘာလဲ။**

ဖြေ။ 'ဗုဒ္ဓဘာသာ' ဟူသောအမည်သည် 'ဗောဓိ' ဟူသော စကားမှ ဆင်းသက်လာသော ဝေါဟာရဖြစ်ပါသည်။ 'နိုးကြားခြင်း' ဟု အဓိပ္ပာယ်သက်ရောက်ပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဆိုသည်မှာ နိုးကြားမှုကို ဖြစ်စေသောအမြင်၊ အယူအဆပင်ဖြစ်ပါသည်။ ဤအယူအဆသည် သိဒ္ဓတ္ထဂေါတမ၏ ဘဝအတွေ့အကြုံများပေါ်တွင် အရင်းခံ၍ ဖြစ်ပေါ်လာပါသည်။ သိဒ္ဓတ္ထဂေါတမသည် သက်တော် ၃၆ နှစ်တွင် ဉာဏ်အလင်းပွင့်ပြီး (အားလုံးသောတရားတို့ကို မခြွင်းမချန် သိမြင်သည့်) ဗုဒ္ဓအဖြစ်သို့ ရောက်တော်မူပါသည်။ ယခုအခါတွင် ဗုဒ္ဓဘာသာသည် သာသနာသက်တမ်းအားဖြင့် နှစ်ပေါင်း ၂၅၀၀ ကြာမြင့်ခဲ့ပြီဖြစ်ပြီး ကမ္ဘာပေါ်တွင် ဗုဒ္ဓဘာသာ၌ သက်ဝင်ယုံကြည်သူပေါင်းမှာ သန်း ၃၀၀ ခန့်ရှိပါသည်။ ဗုဒ္ဓ ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း ရာပေါင်းများစွာအထိ ဗုဒ္ဓဘာသာ အတွေးအမြင်များသည် အာရှတိုက်၏ အတွေးအမြင် အယူအဆ

အဖြစ်သာရှိခဲ့ရာမှ နောက်ပိုင်း တဖြည်းဖြည်း ဥရောပနှင့် အမေရိကတိုက်များသို့ တိုး၍တိုး၍ ပျံ့နှံ့ဝင်ရောက်နေပါသည်။

**မေး။ ဗုဒ္ဓဘာသာသည် အတွေးအမြင် အယူအဆ၊ ဒဿနတစ်ခုသက်သက် ဖြစ်ပါသလား။**

**ဖြေ။** အတွေးအမြင်၊ အယူအဆ ဒဿနဆိုသော 'ဖီလိုဆိုဖီ' ဟူသော ဝေါဟာရသည် 'ဖီလို' (Philo) နှင့် 'ဆိုဖီယာ' (Sophia) ဟူသော စကားနှစ်ရပ်ပေါင်းမှ ဆင်းသက်လာပါသည်။ 'ဖီလို' ဆိုသောစကားမှာ 'မြတ်နိုးခြင်း' ဟု အဓိပ္ပာယ်ရပါသည်။ 'ဆိုဖီယာ' မှာ 'ပညာ' ဟု အဓိပ္ပာယ်ရပါသည်။ ထို့ကြောင့် ဖီလိုဆိုဖီ ဟူသော ဝေါဟာရ၏ အဓိပ္ပာယ်မှာ 'ပညာကို မြတ်နိုးခြင်း' ဟု ဖြစ်ပါသည်။ ဤတွင် 'မြတ်နိုးခြင်း' နှင့် 'ပညာ' ဟူသော စကားနှစ်ရပ်တွင် ဗုဒ္ဓဘာသာကို ပြည့်ဝကုံလုံအောင် ဖော်ညွှန်းပြနိုင်သော အဓိပ္ပာယ်များ ပါရှိပါသည်။ ဗုဒ္ဓ၏ အဆုံးအမအရ ကျွန်ုပ်တို့သည် ကိုယ်ပိုင်အသိဉာဏ်စွမ်းရည်ကို အစွမ်းကုန် ပွင့်လင်းတိုးတက်အောင် ကြိုးစားရန် လိုပါသည်။ သို့မှသာ အရာရာကို ရှင်းလင်းစွာ သိရှိ နားလည်လာနိုင်မည် ဖြစ်ပါသည်။ အချင်းချင်း မေတ္တာတရား ရှေ့ထားပြီး ကိုယ်ချင်းစာတရား၊ ကရုဏာတရားများလည်း ပွားများနိုင်အောင် ကြိုးစားလေ့ကျင့်ဖို့ ဗုဒ္ဓက ဆုံးမခဲ့ပါသည်။ သို့မှသာ လူတိုင်းသည် လူတိုင်းအတွက် မိတ်ဆွေစစ် မိတ်ဆွေမှန်များ ဖြစ်ကြမည် ဖြစ်ပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာသည် အတွေးအမြင်၊ အယူ





အဆ ဒဿနတစ်ခုသက်သက် မဟုတ်ပါ။ (အတွေးအမြင်၊ အကျင့်ပါ စုံလင်သော) အလွန်အဆင့်မြင့်သည့် ဒဿနများ၏ ဒဿနပင် ဖြစ်ပါသည်။

**မေး။ ဗုဒ္ဓသည် မည်သူနည်း။**

**ဖြေ။** ဘီစီ ၅၆၃ ခုနှစ်က အိန္ဒိယနိုင်ငံမြောက်ပိုင်း၊ မြင့်မြတ်သော မိသားစုတစ်ခုတွင် သားမြတ်တစ်ဦး ဖွားမြင်လာပါသည်။ ထိုကလေးသည် လောကီစည်းစိမ်များကြားတွင် ကြီးပြင်းလာရပါသည်။ လောကီစည်းစိမ်များ၊ လောကီရေးရာကိစ္စများသည် အမှန်တကယ် ပျော်ရွှင်ချမ်းမြေ့မှုကို ဖြစ်စေနိုင်ခြင်းမရှိကြောင်း လက်တွေ့ဘဝမှ တွေ့ရှိ နားလည်လာပါသည်။ မိမိ၏ ပတ်ဝန်းကျင်တွင် ဖြစ်ပျက်ထိတွေ့ ခံစားနေရသော ဒုက္ခမျိုးစုံကို တွေ့မြင်ခဲ့သည်။ ထို့ကြောင့် များစွာတုန်လှုပ်ပြီး တကယ့်ချမ်းမြေ့မှုသော့ချက်ကိုရှာရန် ဆုံးဖြတ်ချက်ချခဲ့ပါသည်။ အသက် ၂၉ နှစ်အရွယ်တွင် သူသည် ဇနီးမယားနှင့် သားငယ်ကို စွန့်ခွာခဲ့သည်။ ထိုအချိန်က ဘာသာရေးဆရာကြီးများထံတွင် နည်းမှီးနာယူရန် ထွက်ခွာခဲ့ပါသည်။ ဆရာကြီးများက များစွာသော နည်းလမ်းအသွယ်သွယ်ကို သင်ပေးပါသည်။ သို့သော် သင်သင်သမျှတို့သည် လောကဒုက္ခကို ဖြစ်စေသော အကြောင်းရင်းနှင့် ယင်းဒုက္ခကို ကျော်လွှန်စေသော နည်းမှန်လမ်းမှန်ကို ညွှန်ပြနိုင်စွမ်း မရှိခဲ့ပေ။ သို့ဖြင့် ကိုယ်တိုင် ၆ နှစ်ကြာ တရားရှာဖွေခဲ့ပါသည်။ ထိုသို့ တရားရှာရင်း အဝိဇ္ဇာကင်းပျောက်လျက် ဉာဏ်အလင်းပေါက် နားလည်သော ကိုယ်

ပိုင်အတွေ့အကြုံကို ရခဲ့ပေသည်။ ထိုနေ့မှစ၍ လောကကို အားလုံးသိသူ ဗုဒ္ဓဟု ခေါ်ဝေါ်ကြပါသည်။ သူသည် ဗုဒ္ဓ ဖြစ်ပြီးနောက် နှစ်ပေါင်း ၄၅ နှစ်တိုင် အသက်ရှင် နေထိုင်ခဲ့ပါသည်။ ထို ၄၅ နှစ်ကာလအတွင်း အိန္ဒိယပြည်မြောက်ပိုင်းတစ်ခွင်သို့ လှည့်လည်ပြီး သူ၏ကိုယ်တွေ့တရားများကို အခြားလူများအား ဟောကြားခဲ့ပါသည်။ သူ၏ အလွန်ကြီးမားသော မေတ္တာစေတနာနှင့် သည်းခံမှု အစွမ်းသတ္တိကြောင့် ထောင်ပေါင်းများစွာသော နောက်လိုက်များ ရရှိခဲ့ပါသည်။ အသက် ၈၀ နှစ်တွင် အိုခြင်း၊ နာခြင်း ဟူသော လူ့ဒုက္ခများကို ကြုံရသော်လည်း အေးချမ်းငြိမ်သက်စွာပင် နောက်ဆုံး၌ ပရိနိဗ္ဗာန် ပြုခဲ့ပါသည်။

**မေး။ ဗုဒ္ဓသည် ဇနီးမယားနှင့်သားငယ်ကို စွန့်ပစ်ခဲ့သည့်အတွက် လူ့တာဝန်မကျေသူဟု မပြောနိုင်ဘူးလား။**

ဖြေ။ ဗုဒ္ဓအဖို့ သူ၏မိသားစုကို စွန့်ခွာသွားရသည့် အလုပ်မှာ လွယ်လွယ်ကူကူ ပြုလုပ်၍ရသောအလုပ် မဟုတ်ပါ။ မိသားစုကို မစွန့်ခွာမီ သူသည် လောကီဒုက္ခများစွာကို ကြုံတွေ့ရပြီး သောကရောက်ခြင်း၊ တုန်လှုပ်ခြင်း၊ ထိတ်လန့်ခြင်းများ များစွာဖြစ်ခဲ့ရပါသည်။ ထိုသို့ ထွက်ခွာသွားရာတွင် သူ့၌ကြီးမားလှသော ဆုံးဖြတ်ချက်ကြီးတစ်ခု ရှိခဲ့ပါသည်။ မိသားစု ကွက်ကွက်ကလေး တစ်ခုတည်းအတွက်သာ ဘဝကို မြှုပ်နှံမလား၊ ကမ္ဘာလောက လူသားအားလုံးအတွက်မိမိဘဝတစ်ခုလုံးကို မြှုပ်နှံမလားဟူသော မေးခွန်း ၂ ခုကို စဉ်းစားပြီး ကြီးမား





လှသော ဆုံးဖြတ်ချက်ကို ရွေးချယ်ချမှတ်ခဲ့ခြင်း ဖြစ်ပါသည်။ ထိုလွန်ပွဲတွင် နောက်ဆုံး၌ သူ၏ကြီးမားလှသော မေတ္တာကရုဏာ၏ အားကောင်းမှုကြောင့် မိမိဘဝတစ်ခုလုံးကို ကမ္ဘာ့မိသားစု လူသားအားလုံးအတွက် မြှုပ်နှံရန် ဆုံးဖြတ်ချက်ကို ရွေးချယ်ခဲ့ခြင်း ဖြစ်ပါသည်။ ဆုံးဖြတ်ချက်နှင့်အညီ တစ်ကမ္ဘာလုံးသည် ဗုဒ္ဓ၏အနစ်နာခံခဲ့မှု၏ ကောင်းမြတ်သော အကျိုးဆက်များကို ယခုတိုင် ခံစားနေရဆဲ ဖြစ်ပါသည်။ ထို့ကြောင့် ဇနီးနှင့်သားတို့အား စွန့်ခွာခဲ့ခြင်းသည် လူ့တာဝန်မကျေမှု မဟုတ်ပါ။ ထို စွန့်လွှတ်မှုသည် အရေးအကြီးဆုံးသော စွန့်လွှတ်မှု၊ ပါရမီဖြည့်မှု တစ်ခုသာလျှင် ဖြစ်ပါသည်။

**မေး။ ဗုဒ္ဓသည် ပရိနိဗ္ဗာန်ပြုပြီးဖြစ်၍ သူ့အနေဖြင့် လူသားများအား မည်ကဲ့သို့ အကျိုးပြုနိုင်၊ ကူညီနိုင်ပါ့မလဲ။**

ဖြေ။ လျှပ်စစ်ဓာတ်အားကို ရှာဖွေတွေ့ရှိခဲ့သူ ဖာရာဒေး သည် ကွယ်လွန်ခဲ့ပြီး ဖြစ်ပါသည်။ သို့သော် သူ၏ ရှာဖွေတွေ့ရှိမှုသည် ယနေ့တိုင်အောင် လူသားများအတွက် အကျိုးပြုနေဆဲပင် ဖြစ်ပါသည်။ ရောဂါတော်တော်များများအတွက် ကုထုံးကို ရှာဖွေတွေ့ရှိခဲ့သူ လူးဝစ်(စ်)ပါစတာ သည် ကွယ်လွန်ခဲ့ပြီးဖြစ်ပါသည်။ သို့သော် သူ၏ ရှာဖွေတွေ့ရှိချက်များသည် ယနေ့တိုင် လူသားများ၏ အသက်ပေါင်းများစွာကို ကယ်တင်ပေးနေဆဲပင် ဖြစ်ပါသည်။ ဂန္ထဝင်မြောက် ပန်းချီ အနုပညာလက်ရာများကို ဖန်တီးပေးခဲ့သူ လီယိုနာဒိုဗင်ချီ သည်လည်း ကွယ်

လွန်ခဲ့ပြီးဖြစ်ပါသည်။ သို့သော် သူ၏လက်ရာများသည် ယနေ့တိုင် ရှုမြင်ရသူများ၏ စိတ်နှလုံးကို တက်ကြွစေပြီး ချမ်းမြေ့ပျော်ရွှင်မှုကို ပေးဆောင်နိုင်စွမ်းရှိဆဲပင် ဖြစ်ပါသည်။ မြင့်မြတ်သော ပုဂ္ဂိုလ်ထူးများနှင့် အာဇာနည် သူရဲကောင်းကြီးများသည်လည်း ရာစုနှစ်ပေါင်းများစွာကပင် ကွယ်လွန်ခဲ့ကြပြီး ဖြစ်ပါသည်။ သို့သော် သူတို့၏ လုပ်ရပ်များနှင့် ဆောင်ရွက်ချက်များကို ဖတ်ရှုလေ့လာရသောအခါတွင် သူတို့ကဲ့သို့ပင် ကိုယ်တိုင်ပြုလုပ်ဆောင်ရွက်လိုသောစိတ်များ တဖွားဖွား ပေါ်ပေါက်နေဆဲပင် ဖြစ်ပါသည်။ ဗုဒ္ဓသည် ပရိနိဗ္ဗာန်ပြုခဲ့သည်မှာ မှန်ပါသည်။ သို့သော် ဖြတ်သန်းခဲ့ပြီးသော နှစ်ပေါင်း ၂၅၀၀ အထိ ဗုဒ္ဓ၏အဆုံးအမတို့သည် လူသားများအား အကျိုးပြုနေခဲ့ပါသည်။ အကျိုးပြုနေဆဲပင် ဖြစ်ပါသည်။ ဗုဒ္ဓ၏ စံနမူနာသည် လူသားများအား လှုံ့ဆော်အားအပြည့်ဖြင့် တွန်းအားပေးနေဆဲပင် ဖြစ်ပါသည်။ ဗုဒ္ဓ၏ အဆိုအမိန့်စကားများသည် လူသားများ၏ ဘဝကို ကောင်းအောင် ပြုပြင်ပြောင်းလဲပေးနေဆဲပင် ဖြစ်ပါသည်။ ကွယ်လွန်ပြီးနောက် ရာစုနှစ်ပေါင်း ရှည်ကြာများပြားစွာ လူသားများ အကျိုးကို ပြုနိုင်သော အစွမ်းသတ္တိမှာ ဗုဒ္ဓမှာသာလျှင် ရှိပါသည်။

**မေး။ ဗုဒ္ဓသည် ဖန်ဆင်းရှင် ဘုရားလား။**

ဖြေ။ ဗုဒ္ဓသည် ဖန်ဆင်းရှင်ဘုရား မဟုတ်ပါ။ ဗုဒ္ဓကိုယ်တိုင်ကလည်း သူသည် ဖန်ဆင်းရှင်ဘုရားဖြစ်သည်ဟု ဘယ်အခါကမှ မပြောခဲ့ပါ။ ဖန်ဆင်းရှင်ဘုရား မဟုတ်သည်သာမက ဖန်ဆင်းရှင်ဘုရား၏ သားတော်လည်းမဟုတ်၊ ဖန်ဆင်းရှင်ဘုရား၏ တမန်တော်လည်း မဟုတ်ပါ။ ဗုဒ္ဓသည် မိမိကိုယ်တိုင် ကြိုးစားအားထုတ်၍ ပြီးပြည့်စုံသော၊ အားလုံးကိုသိသော လူသားဖြစ်ပါသည်။ ဗုဒ္ဓ ညွှန်ပြသောလမ်းကို လိုက်သောသူတို့သည် ဗုဒ္ဓကဲ့သို့ပင် ပြီးပြည့်စုံလာကြမည် ဖြစ်ပါသည်။





**မေး။ ဗုဒ္ဓသည် ဖန်ဆင်းရှင်ဘုရား မဟုတ်ခဲ့လျှင် အဘယ်ကြောင့် လူသားများက ဗုဒ္ဓကို ကိုးကွယ်ကြပါသလဲ။**

ဖြေ။ ကိုးကွယ်ဆည်းကပ်မှုတွင် ပုံစံအမျိုးမျိုးရှိပါသည်။ တစ်စုံတစ်ဦးသည် ဘုရားကို ကိုးကွယ်ဝတ်ပြုရာတွင် သူသည် ဘုရားဂုဏ်ကို ချီးမွမ်းဂုဏ်ပြုပြီး ဘုရားအား လှူဖွယ်ပစ္စည်းများ ဆက်ကပ်လျက် လိုရာဆန္ဒကို တောင်းကြခြင်းဖြစ်ပါသည်။ ထိုသို့ ပြုလုပ်ရာတွင် ယုံကြည်မှုရှိပါသည်။ သူတို့၏ ချီးမွမ်းဂုဏ်ပြု ပြောဆိုမှုကို ဘုရားက ကြားနိုင်သည်။ လှူဖွယ်များကို လက်ခံယူနိုင်သည်။ တောင်းသော ဆုများကိုလည်း ပြည့်ဝအောင် ဖြည့်ပေးနိုင်သည်ဟု လက်ခံယုံကြည်ပြီး ဘုရားအား ဝတ်ပြုကိုးကွယ်ခြင်း ဖြစ်ပါသည်။

အခြားသော ကိုးကွယ်ဆည်းကပ်နည်းမှာ မိမိတို့ လေးစား တန်ဖိုးထားသော လူ၊ သို့မဟုတ် အရာဝတ္ထုတစ်ခုခုကို ရိုသေလေးစားမှု ပြသခြင်းပင် ဖြစ်ပါသည်။ စာသင်ခန်းထဲသို့ ဆရာ၊ ဆရာမ ဝင်လာသောအခါ ကျောင်းသားများက ရပ်ပြီး

အရှိအသေပြုကြပါသည်။ လေးစားထိုက်သော ပုဂ္ဂိုလ်ကို တွေ့လျှင် ကိုယ်အမူအရာ ယဉ်ကျေး သိမ်မွေ့စွာပြုလျက် နှုတ်ဆက်ကြပါသည်။ နိုင်ငံတော်သီချင်း သီဆို၍ နိုင်ငံတော်အလံကို လွှင့်တင်သည့်အခါတွင် နိုင်ငံတော်အလံကို အရှိအသေပြုသည့်အနေဖြင့် အလေးပြုကြပါသည်။ ဤအမူအရာအားလုံးတို့သည် လေးစားမှုပြုသော အမူအရာများဖြစ်ပါသည်။ လူပုဂ္ဂိုလ်ကိုသော်လည်းကောင်း၊ အထိမ်းအမှတ်အရာဝတ္ထုကိုသော်လည်းကောင်း လေးစားတန်ဖိုးထားသည့် သဘောဖြင့်ပြုလုပ်သော အမူအရာများသာ ဖြစ်ပါသည်။ ဤကဲ့သို့သော ကိုးကွယ်ဆည်းကပ်မှုသည် ဗုဒ္ဓဘာသာဝင်များပြုလုပ်သည့် ကိုးကွယ်ဆည်းကပ်မှုပုံစံ ဖြစ်ပါသည်။ မေတ္တာစိတ် အပြည့်ဖြင့် ပြုံးနေသော မျက်နှာတော်၊ ငြိမ်သက်သော ကာရန်ဖြင့် လက်နှစ်ဖက်ကို ညင်ညင်သာသာ တစ်ခုပေါ်တစ်ခု တင်လျက် မျက်လွှာချပြီးထိုင်နေသော ဗုဒ္ဓဆင်းတုတော်တစ်ဆူသည် ဆည်းကပ်ပူဇော်သူတို့ စိတ်နှလုံးတွင်လည်း ငြိမ်းအေးမှု ရှိအောင် ကြိုးစားရန်နှင့် မေတ္တာတရား အစဉ်ပွားများရန် နှိုးဆော်တိုက်တွန်းပေးနေသည့် အမှတ်အသားတစ်ခုပင် ဖြစ်ပါသည်။ ပူဇော်သော ဆီမီးသည် ဉာဏ်၏ အလင်းစာတ်သဘောကို သတိရစေပါသည်။ ဆက်ကပ်ထားသော ပန်းအလှတို့၏ လှပမှု၊ မကြာမီ ညှိုးခြောက်မှုတို့သည် မတည်မြဲသည့် သဘော၊ အနိစ္စသဘော၊ အနတ္တသဘောများကို ညွှန်ပြသတိရစေပါသည်။ ဆက်ကပ်ထားသော အမွှေးနံ့သာတို့သည် ပတ်ဝန်းကျင်တစ်ခွင် ပျံ့နှံ့စေသကဲ့သို့ပင် ကောင်းမှုကုသိုလ်၏ အကျိုးထင်ပုံကို သတိရစေနိုင်ပါသည်။ ဗုဒ္ဓ ရုပ်ပွားတော်အား ဦးနှိမ်ချ၍ ရှိခိုးသည့်အခါ ဗုဒ္ဓအဆုံးအမများကြောင့် ခံစားခဲ့ရသော အကျိုးများကို ဆင်ခြင်လျက် ဗုဒ္ဓ၏ ကျေးဇူးတရားကို သတိတရ ဖော်ထုတ်ပြောဆိုခြင်းပင် ဖြစ်ပါသည်။ ဤသဘောသဘာဝသည် ဗုဒ္ဓဘာသာဝင်တို့၏ ကိုးကွယ်ဆည်းကပ်မှုပင် ဖြစ်ပါသည်။

**မေး။ ‘ဗုဒ္ဓဘာသာဝင်တို့သည် ဖန်ဆင်းရှင် ဘုရားအဖြစ် ဗုဒ္ဓရုပ်တုကို ကိုးကွယ်နေကြသည်’ ဟု လူအများ ပြောဆိုကြပါသည်။ ထိုအယူအဆက ဘယ်လိုပါလဲ။**

ဖြေ။ ထိုကဲ့သို့ ပြောဆိုခြင်းသည်ပင်လျှင် ပြောဆိုသူအနေဖြင့် နားလည်မှုလွဲမှားနေသည် ဆိုသောအချက်ကို ပေါ်လွင်စေပါသည်။ အဘိဓာန်တွင် ရုပ်တုဆိုသည်ကို ‘ဆင်းတု၊ သို့မဟုတ် ဘုရားအဖြစ် ကိုးကွယ်သောရုပ်တု’ ဟု ဖွင့်ဆိုထားပါသည်။ ဗုဒ္ဓဘာသာဝင်များအနေဖြင့် ဗုဒ္ဓကို ဖန်ဆင်းရှင်ဘုရားဟု မယူဆကြပါ။ ဗုဒ္ဓစင်စစ်ကိုပင် ဖန်ဆင်းရှင်ဘုရားဟု ယူဆခြင်း မရှိခဲ့ပါလျှင် ဗုဒ္ဓဆင်းတု သစ်သားရုပ်၊ သတ္တုရုပ်တစ်ခုကို ဖန်ဆင်းရှင်ဘုရားဟု မည်ကဲ့သို့ ယုံကြည်ကိုးကွယ်နိုင်ကြပါမည်နည်း။ ဘာသာများစွာတို့တွင် အယူအဆအမျိုးမျိုးကို ရည်ညွှန်းသတ်မှတ်ပြီး လက်ခံကျင့်သုံးနေသော သင်္ကေတအမှတ်အသားလက္ခဏာများ ရှိကြပါသည်။ နမူနာအားဖြင့် Taoism

တာအို အယူဝါဒတွင် ဆန့်ကျင်ဘက် သဘောနှစ်ခုတို့ သဟဇာတ ညီညွတ်မျှတမှုကို ယင်-ယန်(Ying-Yang) ပုံဖြင့် အမှတ်အသား သင်္ကေတပြုပါသည်။ ဆစ်ခ်ဝါဒ(Sikhism)တွင် စိတ်ဓာတ်ရေးရာ ရုန်းကန်လှုပ်ရှားမှုသဘောကို ဓားပုံဖြင့် အမှတ်အသား သင်္ကေတ ပြုပါသည်။ ခရစ်ယာန်ဘာသာတွင် ငါးပုံသည် ခရစ်တော်ရှိခြင်း၏ အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ လက်ဝါးကပ်တိုင်သည် ခရစ်တော်၏ ကိုယ်ကျိုးစွန့်လွှတ်မှု သင်္ကေတ အဖြစ်လည်းကောင်း သတ်မှတ်လက်ခံကြပါသည်။ အလားတူပင် ဗုဒ္ဓဘာသာတွင် ဗုဒ္ဓ၏ ဆင်းတုတော်များကို လူသား၏ အကြွင်းမဲ့ ပြည့်စုံမှုသဘောကို ဖော်ညွှန်းသော သင်္ကေတအဖြစ်သာလျှင် လက်ခံကျင့်သုံးခြင်းဖြစ်ပါသည်။ ထိုဆင်းတုတော်များသည် ဗုဒ္ဓအဆုံးအမများတွင် လူသား၏ အခန်းကဏ္ဍ၊ လူသား၏ ဆောင်ရွက်နိုင်မှု ပမာဏကို အလေးအနက် သတိရစေသော သင်္ကေတလည်း ဖြစ်ပါသည်။ ဗုဒ္ဓဘာသာသည် 'လူသားဗဟိုပြု' အယူအဆဖြစ်၍ ဖန်ဆင်းရှင်ဘုရားဗဟိုပြု အယူအဆမဟုတ်သည်ကို ဖော်ညွှန်းသော သင်္ကေတလည်း ဖြစ်ပါသည်။ ထိုမှတစ်ဆင့် ပြီးပြည့်စုံမှုသဘောနှင့် ထိုသဘောကို နားလည်မှုရအောင် ရှာကြံရာတွင် မိမိ၏ပြင်ပတွင်ရှာရန် မဟုတ်ဘဲ မိမိ၏ စိတ်အတွင်းမှာသာ ရှာရန် ဖော်ညွှန်းသော သင်္ကေတ ဖြစ်ပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်များသည် ရုပ်တုကို ဖန်ဆင်းရှင်ဘုရားအဖြစ် ကိုးကွယ်ကြသည် ဆိုသည့် အယူအဆမှာ မမှန်ကန်ပါ။





**မေး။ ဗုဒ္ဓဘုရားကျောင်းများတွင် ငွေစက္ကူများကို မီးရှို့ခြင်း နှင့် အခြားထူးဆန်းသောကိစ္စများ ဆောင်ရွက်ခြင်းတို့ကို အဘယ်ကြောင့် ပြုလုပ်နေကြပါသနည်း။**

ဖြေ။ ကိုယ်တိုင် နားမလည်နိုင်သော ကိစ္စများသည် အထူးအဆန်းများသဖွယ် စိတ်တွင် ဖြစ်ပေါ်တတ်ပါသည်။ နားမလည်သည်ကို အထူးအဆန်းဟုသာ ယူဆနေမည့်အစား ထိုကိစ္စများ၏ သဘောသဘာဝနှင့် ပြုလုပ်ရသည့် အဓိပ္ပာယ်ကို နားလည်အောင် ကြိုးစားသင့်လှပါသည်။ မည်သို့ပင်ဆိုစေကာမူ ဗုဒ္ဓဘာသာဝင်တို့ ပြုလုပ်နေသော အချို့သော ကိစ္စများသည် တစ်ခါတစ်ရံတွင် ဗုဒ္ဓအဆုံးအမနှင့်အညီ ဆောင်ရွက်ခြင်း မဟုတ်ကြဘဲ အစွဲအလမ်းကြီးမှုပေါ်တွင် အခြေပြု၍ ဆောင်ရွက်နေခြင်းများသာ ဖြစ်ကြပါသည်။ ထိုကဲ့သို့ လွဲမှားစွာနားလည်ခြင်း၊ ဆောင်ရွက်ခြင်းများမှာ ဗုဒ္ဓဘာသာတွင်သာလျှင် တွေ့ရှိရခြင်း မဟုတ်ပါ။ အခြားအခြားသော ဘာသာများတွင်လည်း ကြုံရတွေ့ရတတ်ပါသည်။ ဗုဒ္ဓ၏ အဆုံးအမများသည် ရှင်းလင်းတိကျပြီး အလွန်လည်း အသေးစိတ်ပါသည်။ ထို့ကြောင့် တစ်စုံတစ်ဦးက ထိုအဆုံးအမ အသေးစိတ်ကို မငုံမိခြင်း၊ ပြည့်ပြည့်စုံစုံ နားမလည်ခြင်းအတွက် ဗုဒ္ဓအား အပြစ်မတင်သင့်ပါ။ ဆိုရိုးစကားတစ်ခု ရှိပါသည်။

*ရောဂါဝေဒနာ ခံစားနေရသော ဝေဒနာရှင်တစ်ဦးသည် အနီးအနားတွင် ဆေးဆရာရှိပါလျက် လိုအပ်သော ကုသမှုမခံ*

ယူခဲ့လျှင် ထိုအမှားသည် ဆေးဆရာ၏ အမှားမဟုတ်ပေ။

အလားတူပင် လူသားတစ်ဦးသည် စိတ်ထဲတွင် မရှင်းမလင်း တွေးရေယှက်တင်ဖြစ်နေသောရောဂါ ဖိစီးခံနေရသည့်အခါ ဗုဒ္ဓ၏အဆုံးအမ အကူအညီကို မရယူခဲ့လျှင် ထိုအမှားသည် ဗုဒ္ဓ၏အမှား မဟုတ်ပေ။

ဘာသာဝင် အမည်ခံလျက် အဆုံးအမ နည်းလမ်းများကို စနစ်တကျ၊ ပြည့်ပြည့်စုံစုံ လိုက်နာကျင့်သုံးခြင်းမရှိသော လူတို့၏ဆောင်ရွက်မှုများကို ကြည့်ပြီး ဗုဒ္ဓဘာသာကို ဖြစ်စေ၊ သို့မဟုတ် အခြား မည်သည့်ဘာသာကိုပင် ဖြစ်စေ တန်ဖိုးဖြတ်ခြင်း၊ အကဲဖြတ်ခြင်းများ မပြုလုပ်သင့်ပေ။ ဗုဒ္ဓ၏ အဆုံးအမ အစစ်အမှန်များကို သိရှိနားလည်လိုပါလျှင် ဗုဒ္ဓ၏ နှုတ်ထွက် အဆုံးအမများကို ရှာဖွေလေ့လာဖတ်ရှုပါ။ သို့မဟုတ် ဗုဒ္ဓအဆုံးအမများကို နှံ့စပ်စွာ ဖတ်ရှုလေ့လာထားပြီး နားလည်တတ်ကျွမ်းသော ပုဂ္ဂိုလ်များထံ ချဉ်းကပ်၍ မေးမြန်းလေ့လာရန် လိုပါသည်။

**မေး။ ဗုဒ္ဓဘာသာသည် အလွန်ကောင်းပါလျက် ဗုဒ္ဓဘာသာဝင်များနေထိုင်သည့် အချို့သော နိုင်ငံများသည် အဘယ်ကြောင့် ဆင်းရဲကြပါသနည်း။**

ဖြေ။ ဆင်းရဲခြင်းဆိုသည်မှာ စီးပွားရေးအရ ဆင်းရဲချို့တဲ့ခြင်းကို ရည်ညွှန်းသည်ဆိုပါလျှင် အချို့သော ဗုဒ္ဓဘာသာနိုင်ငံများသည် ဆင်းရဲကြသည် ဆိုသည်မှာ မှန်ကန်ပါသည်။ သို့သော်





ဆင်းရဲခြင်းဆိုသည်မှာ ဘဝအရည်အသွေး နိမ့်ကျခြင်း ဖြစ်သည်ဟု ရည်ညွှန်းခဲ့လျှင် အချို့သော ဗုဒ္ဓဘာသာ နိုင်ငံများသည် အလွန့်အလွန်အေးငြိမ်း ချမ်းသာကြသည်ကို တွေ့နိုင်ပါသည်။ နမူနာအားဖြင့် အမေရိကန်ပြည်ထောင်စုသည် စီးပွားရေးအရ ကြွယ်ဝချမ်းသာပြီး အင်အားကြီးမားသော နိုင်ငံတစ်နိုင်ငံဖြစ်ပါသည်။ သို့သော် လူသတ်မှုနှုန်းထားမှာ ကမ္ဘာပေါ်တွင် အမြင့်မားဆုံးသော နိုင်ငံများတွင် တစ်ခုအပါအဝင် ဖြစ်နေပါသည်။ သန်းပေါင်းများစွာသော သက်ကြီးရွယ်အို၊ အဘိုးအဘွား၊ အမိအဖတို့မှာ သားသမီး မြေးမြစ်များက ပြန်လည်စောင့်ရှောက်ခြင်း မပြုဘဲ ပစ်ပယ်ထားကြသဖြင့် လူအိုရုံများတွင် အထီးကျန်ဘဝနှင့်နေရင်း သေကြရပါသည်။ အကြမ်းဖက်မှုများနှင့် ကလေးသူငယ်၊ လူမမည်များအား နှိပ်စက်ညှင်းပန်းမှုတို့သည် အဓိက ပြဿနာကြီးများပင် ဖြစ်နေပါသည်။ အိမ်ထောင်သုံးခုတွင် တစ်ခုမှာ ကွာရှင်းပြတ်စဲခြင်းဖြင့် အဆုံးသတ်နေပါသည်။ ညစ်ညမ်းသော စာပေများ၊ မဖွယ်မရာ ပုံများမှာ လွယ်လွယ်ကူကူရနိုင်၊ မြင်တွေ့နိုင်ပါသည်။ ပစ္စည်း၊ ငွေကြေးအားဖြင့် ကြွယ်ဝချမ်းသာသော်လည်း ဘဝအရည်အသွေးအားဖြင့် ဆင်းရဲနိမ့်ကျလှပါသည်။ မြန်မာနိုင်ငံကို နမူနာယူကြည့်ပါ။ စီးပွားရေးအားဖြင့် နောက်ကျသောနိုင်ငံတစ်နိုင်ငံဖြစ်ပါသည်။ လူကြီးမိဘများအား သူတို့၏ သားသမီးများ၊ လူငယ်များက ဂုဏ်ပြုလေးစားကြသည်။ လူသတ်မှုနှုန်းမှာလည်း အလွန်နိမ့်ကျပါသည်။ လင်မယား ကွာရှင်းပြတ်စဲ

မြင့်၊ မိမိကိုယ်ကို သတ်သေခြင်းစသည်တို့မှာ မကြားရလောက်အောင် နည်းပါးလှပါသည်။ အကြမ်းဖက်မှုများ၊ ကလေးသူငယ်များအား ညှင်းပန်းနှိပ်စက်မှုများလည်း မကြားရပါ။ ညစ်ညမ်းသောစာပေ၊ မှူယစ်ဆေး ရုပ်ပုံများ၊ လိင်မှုရေးရာ အပျော်ခန်းလိုင်စင် စသည်တို့မှာ ရှိပင်မရှိပါ။ စီးပွားရေးအားဖြင့် နောက်ကျသည်မှန်သော်လည်း ဘ၀ အရည်အသွေးအားဖြင့် ပြောလျှင် အမေရိကန်နိုင်ငံထက်ပင် သာလွန်သည်ဟု ပြောနိုင်ပါသည်။ ဗုဒ္ဓဘာသာနိုင်ငံများကို စီးပွားရေးမှတ်ကျောက် တစ်ခုတည်းပေါ်မှာဝင် တင်ကြည့်လိုသည်ဆိုလျှင် ဂျပန်နိုင်ငံကို ဖော်ညွှန်းပြရပါလိမ့်မည်။ ဂျပန်လူဦးရေ၏ ၉၃ ရာခိုင်နှုန်းသည် မိမိကိုယ်ကို ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြသည်ဟု သတ်မှတ်ပြောဆိုကြပါသည်။ ထို ဂျပန်နိုင်ငံသည် စီးပွားရေးအားဖြင့် ပြောရလျှင် ကမ္ဘာပေါ်တွင် အတိုးတက်ဆုံး၊ အချမ်းသာဆုံး၊ အကြွယ်ဝဆုံးနှင့် အတက်ကြွဆုံးသော နိုင်ငံများတွင် တစ်နိုင်ငံဖြစ်ပါသည်။

**မေး။ ဗုဒ္ဓဘာသာဝင်များ ပြုလုပ်ကြသော အလှူဒါန အမှုများကို မကြာခဏ မကြားရ၊ မမြင်ရသည်မှာ အဘယ်ကြောင့်ပါလဲ။**

ဖြေ။ အလှူဒါန ပေးကမ်းစွန့်ကြဲမှု ကိစ္စများ မကြာခဏ မကြားရ မမြင်ရသည်မှာ ဗုဒ္ဓဘာသာဝင်များအနေဖြင့် မိမိပြုသော ကုသိုလ်ကောင်းမှုအတွက် ကြွားဝါဟန်ပြရန်မလိုဟု ယူဆပြီး





ထုတ်ဖော်မပြောသသည့်အတွက် ဖြစ်နိုင်ပါသည်။ လွန်ခဲ့သော နှစ်များစွာက ဂျပန်လူမျိုး ဗုဒ္ဓဘာသာဝင် ခေါင်းဆောင်တစ်ဦးဖြစ်သူ Nikkho Nirwano သည် ဘာသာအချင်းချင်း သဟာဇာတ ညီညွတ်မှုရရှိရေးအတွက် ထူးချွန်စွာ ကြိုးပမ်းအားထုတ်ခဲ့သည့်အတွက် တမ်ပလင်တွန်ဆု(Templeton prize) ကို ချီးမြှင့်ခံခဲ့ရပါသည်။

အလားတူပင် ထိုင်းဘုန်းတော်ကြီးတစ်ပါးမှာလည်း မူးယစ်ဆေးစွဲနေသူများအတွက် ထူးခြားပြောင်မြောက်သော လုပ်ရပ်များကိုဆောင်ရွက်ခဲ့၍ မကြာသေးမီကပင် ဂုဏ်ထူးဆောင် မက်ဆေးဆေးဆု(Magsaysay Prize)ချီးမြှင့်ခြင်းခံခဲ့ရပါသည်။ အိုးမဲ့အိမ်မဲ့ နိုကိုးရာမဲ့နေသော၊ မဖွံ့ဖြိုးသောကျေးလက်ဒေသမှ ကလေးများအတွက် နှစ်ပေါင်းများစွာ ကူညီဆောင်ရွက်ခဲ့သော ထိုင်းဘုန်းတော်ကြီး ကန်တာယာပီဝပ် (Kantaya-piwat) အား ၁၉၈၇ ခုနှစ်တွင် နော်ဝေနိုင်ငံမှ ကလေးများငြိမ်းချမ်းရေး ဆုတံဆိပ်ဖြင့် ဂုဏ်ပြုချီးမြှောက်ခဲ့ပါသည်။ အလားတူပင် အိန္ဒိယရှိ ဆင်းရဲဒုက္ခရောက်နေသူများကြားတွင် ပြုလုပ်နေသော ကြီးမားကျယ်ပြန့်သည့် လူမှုရေး လုပ်ငန်းများ၊ အနောက်တိုင်း ဗုဒ္ဓဘာသာဝင်အသင်းများ၏ ဆောင်ရွက်ချက်များလည်း အထ ် အရှားရှိနေသဖြင့် ထိုဆောင်ရွက်ချက်များကိုလည်း မည်သို့ ယူဆရပါမည်နည်း။

ဗုဒ္ဓဘာသာဝင်များသည် စာသင်ကျောင်းများ ဆောက်လုပ်ခြင်း၊ လူငယ်ပြုစုရေးကျောင်းများ၊ ဆေးပေးခန်းများ ရေ

ရှည် ကိုယ့်မြေထောက်ပေါ်ကိုယ် ရပ်တည်နိုင်ရေးအတွက် အိမ်တွင်းစက်မှုလုပ်ငန်းအသေးစားများ တည်ထောင်ခြင်းလုပ်ငန်းများတွင် အလှူဒါန ပြုလုပ်ခဲ့ကြပါသည်။ ဗုဒ္ဓဘာသာဝင်များသည် အခြားသူများအတွက် ပေးကမ်းစွန့်ကြဲခြင်းအမှုသည် ဘာသာတရား အဆုံးအမနှင့်အညီ ကျင့်ကြံအားထုတ်ခြင်းဖြစ်သည်ဟု အခြားသော ဘာသာဝင်များကဲ့သို့ပင် လက်ခံယုံကြည် ကျင့်သုံးကြပါသည်။ သို့သော် ယင်းသို့သော ကောင်းမှုကို ထုတ်ဖော် ကြွားဝါသည့်သဘော လုံးဝမပါဘဲ၊ ပကာသနမဖက်ဘဲ ရိုးရိုးအေးအေးသာလျှင် ပြုလုပ်ရမည်ဟု လက်ခံယုံကြည်ထားကြပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်တို့၏ ပေးကမ်းစွန့်လှူမှုနှင့် ပတ်သက်၍ မကြာခဏ မကြားရခြင်းပင် ဖြစ်နိုင်ပါသည်။

**မေး။ ဗုဒ္ဓဘာသာအမျိုးကွဲတွေ အဘယ်ကြောင့် များစွာ ရှိနေပါသလဲ။**

**ဖြေ။** သကြားအမျိုးအစား များစွာရှိပါသည်။ ညိုနီရောင် သကြား၊ အဖြူရောင်သကြား၊ သကြားမှုန့်၊ သကြားခဲ၊ သကြားနှင်း၊ သကြားရည် စသည်ဖြင့် အမျိုးကွဲများစွာရှိပါသည်။ သို့သော် ၎င်းတို့အားလုံးမှာ သကြားပင်ဖြစ်ပြီး ချိုသော အရသာ ရှိကြပါသည်။ ၎င်းတို့ကို ပုံစံအမျိုးမျိုးဖြင့် ထုတ်လုပ်သည့်အတွက် အခြေအနေအမျိုးမျိုးတို့တွင် အံဝင်ခွင်ကျ အသုံးပြုနိုင်ပါသည်။





ဗုဒ္ဓဘာသာမှာလည်း အလားတူပင် ဖြစ်ပါသည်။ ထေရဝါဒ ဗုဒ္ဓဘာသာ၊ ဇင်ဗုဒ္ဓဘာသာ၊ ယောဂါစာရ ဗုဒ္ဓဘာသာ (Yogacara)၊ ဗဇ္ဇရာယာန ဗုဒ္ဓဘာသာ (Vajrayana) စသည်ဖြင့် အမျိုးမျိုးရှိသော်လည်း အားလုံးသည် ဗုဒ္ဓဘာသာသာ ဖြစ်ပြီး ရသအားဖြင့်လည်း အားလုံးတွင်တူညီသော ရသတစ်မျိုးသာ ရှိပါသည်။ ထိုရသမှာ သံသရာမှ လွတ်မြောက်ခြင်းတည်းဟူသော ဝိမုတ္တိရသသာလျှင် ဖြစ်ပါသည်။ ဗုဒ္ဓဘာသာသည် အပြည်ပြည်၊ အနယ်နယ်၊ အရပ်ရပ်သို့ ပျံ့နှံ့ပြီး ကျယ်ပြန့်လာသည်နှင့်အမျှ မတူညီသော ယဉ်ကျေးမှုစရိုက်လက္ခဏာနှင့်အညီ ကျင့်သုံးမှုဖြစ်နိုင်ရန် ပုံစံကွဲအမျိုးမျိုးဖြင့် ဖွံ့ဖြိုးတိုးတက် ကျယ်ပြန့်လာခြင်းဖြစ်ပါသည်။ သူ့ခေတ်သူ့အခါ လူသားများနှင့် ကိုက်ညီဖို့အတွက်လည်း ဗုဒ္ဓဘာသာကို လွန်ခဲ့သော ရာစုနှစ်ပေါင်း များစွာကပင် ပြန်လည်ဖွင့်ဆိုမှု၊ အဓိပ္ပာယ်ဖော်ဆောင်မှုများ ပြုလုပ်ခဲ့ကြပါသည်။ အပြင်ပန်း အသွင်သဏ္ဌာန်အားဖြင့် အမျိုးမျိုး ကွဲပြားနေသယောင် ရှိသော်လည်း အတွင်းသား အနှစ်မှာ သစ္စာတရား (၄) ပါးနှင့် မဂ္ဂင် (၈) ပါးတို့သာလျှင် ဖြစ်ပါသည်။

ဗုဒ္ဓဘာသာ အပါအဝင် ကမ္ဘာ့အဓိကဘာသာကြီးများတွင် ဂိုဏ်းကွဲများ ပေါ်ပေါက်ခဲ့ကြပါသည်။ သို့သော် ဗုဒ္ဓဘာသာမှ ခွဲဖြာထွက်လာသော ဗုဒ္ဓဘာသာဂိုဏ်းကွဲများသည်တစ်ခုနှင့်တစ်ခု စစ်မက်ဖြစ်ခြင်းမျိုး တစ်ခါမှမရှိခဲ့ပါ။ တစ်ခုနှင့် တစ်ခု ရိုင်းပျစွာဆက်ဆံခြင်း ၊ မထီလေးစားပြုခြင်းများ မရှိကြပါ။

ယနေ့အထိ တစ်ဦးထံတစ်ဦး သွား၍ အတူတကွ စတ်ပြုခြင်း၊ ကိုးကွယ်ဆည်းကပ်ခြင်းများ ရှိပါသည်။ ဤကဲ့သို့သော အပြန်အလှန်နားလည်မှု၊ သည်းခံခွင့် လွှတ်မှုမျိုးမှာ လွန်စွာမှ ရှားပါးလှပါသည်။

**မေး။ ဗုဒ္ဓဘာသာကိုသာ သိပ်ပြီး အထင်ကြီးနေပုံအရ ဗုဒ္ဓဘာသာသာလျှင် မှန်ကန်ပြီး အခြားဘာသာများမှာ မှားသည်ဟု ဆိုလိုပါသလား။**

ဖြေ။ ဗုဒ္ဓ၏ အဆုံးအမကို မှန်ကန်စွာ နားလည်သဘောပေါက်သော မည်သည့် ဗုဒ္ဓဘာသာဝင်မှ အခြားသော ဘာသာများသည် မှားသည်ဟု မယူဆပါ၊ မထင်ကြပါ။ အခြားဘာသာများကို သေသေချာချာ မှန်မှန်ကန်ကန် နားလည်အောင် သဘောထားအမြင်ကျယ်ကျယ်ဖြင့် လေ့လာခဲ့လျှင် မိမိသက်ဝင်ယုံကြည်သော ဘာသာသာလျှင်မှန်ပြီး ကျန်ဘာသာများမှာ မှားသည်ဟူသော အတွေးမျိုး ဝင်နိုင်စရာမရှိပါ။ အခြားသော ဘာသာများကို မှန်မှန်ကန်ကန် နားလည်အောင် သဘောထားအမြင်ကျယ်ကျယ်ဖြင့် လေ့လာကြည့်ပါက ထိုဘာသာများတွင် တူညီချက်များ များစွာရှိသည်ကို ဗဟာမဦးစွာ သတိပြုမိမည်ဖြစ်ပါသည်။

အားလုံးသော ဘာသာများက လက်ရှိလူသား၏ အခြေအနေသည် ကျေနပ်စရာမကောင်းသည်ကို အသိအမှတ်ပြုကြပါသည်။ လူသား၏ လက်ရှိအနေအထားကို ပို၍ကောင်းမွန်





လာအောင် ပြုပြင်လိုလျှင် သဘောထားနှင့် အပြုအမူတို့တွင် ပြောင်းလဲပေးရန်လိုအပ်သည်ကို ဘာသာတိုင်းကပင် ယုံကြည်ကြပါသည်။ လူ့ကျင့်ဝတ်သိက္ခာနှင့် ပတ်သက်၍ မေတ္တာတရား၊ ကရုဏာတရား၊ သည်းခံခွင့်လွှတ်မှု၊ စိတ်ထား မြင့်မြတ်မှု၊ သဘောထားကြီးမှု၊ လူမှုရေးတာဝန်များ သိတတ်ကျေပွန်မှုတို့ကို ဘာသာတိုင်း၏ အဆုံးအမများတွင်တွေ့ရပြီး ဘာသာတိုင်းတွင် လုံးဝပြည့်စုံမှုသဘော (absolute)ကိုလည်း လက်ခံကြသည်ကို တွေ့ရပါသည်။ သို့သော် ဤအကြောင်းအရာများကို ဖော်ပြရာတွင် ဘာသာစကားအမျိုးမျိုး၊ အမည်နာမအမျိုးမျိုး၊ သင်္ကေတ အမျိုးမျိုးကို သုံးပြီးဖော်ပြကြသည်။ အမြင်ကျဉ်းကျဉ်း၊ အမြင်တိုတိုဖြင့် မိမိ၏အမြင်တစ်ခုတည်းကိုသာလျှင် တွယ်ကပ်ပြီး မြင့်မြတ်သည့် အခါမျိုးတွင်သာ အခြားဘာသာအယူအဆများကို သည်းမခံ ခွင့်မလွှတ်ခြင်း၊ မိမိဘာသာ သာလျှင် မှန်ကန်ပြီး အခြားဘာသာတွေအားလုံး မှားသည်ဟူသော လွဲမှားသည့် မောက်မာမှုမာနများ ပေါ်ထွက်လာတတ်ခြင်းဖြစ်ပါသည်။

အင်္ဂလိပ်လူမျိုးတစ်ဦး၊ ပြင်သစ်လူမျိုးတစ်ဦး၊ တရုတ်လူမျိုးတစ်ဦးနှင့် အင်ဒိုနီးရှားလူမျိုးတစ်ဦးတို့သည် လက်ဖက်ရည်ထည့်ထားသောခွက်ကို ကြည့်ရှုနေကြသည်ဆိုပါစို့။

အင်္ဂလိပ်လူမျိုးက ခွက်ကို ကပ်(ပ်) (cup) ဟုပြောပါသည်။ ပြင်သစ်ကလည်း ကပ်(ပ်) မဟုတ်၊ တာဆဲ (tasse) ဖြစ်သည်ဟု ပြောပေမည်။ ထိုအခါ တရုတ်ကလည်း 'ခင်ဗျား

တို့နှစ်ယောက်လုံး မှားပါတယ်၊ အဲဒါ ပိုင် (pei) လို့ခေါ်ပါတယ်' ဟု ပြောပေလိမ့်မည်။

ထိုအခါ အင်ဒိုနီးရှားလူမျိုးက 'ဟားဟား၊ ခင်ဗျားတို့ အားလုံး မှားတယ်။ အဲဒါ ကဝမ် (cawan) လို့ခေါ်တယ်' ဟု ပြောပါလိမ့်မည်။ ထိုအခါ အင်္ဂလိပ်လူမျိုးကလည်း အင်္ဂလိပ် အဘိဓာန်ကို လှန်ပြီး ခွက်ကို ကပ်(ပ်) လို့ခေါ်သည်မှာ မှန်ကန်ကြောင်း သက်သေအထောက်အထားပြပါမည်။ ထိုအခါ ပြင်သစ်လူမျိုးက 'ခင်ဗျားတို့ အဘိဓာန်က မှားနေတယ်၊ ကျွန်တော်တို့ အဘိဓာန်ထဲမှာ ခွက်ကို တေဆဲ လို့ ရှင်းရှင်းလင်းလင်း ဖော်ပြထားပါတယ်' လို့ ငြင်းချက်ထုတ်ပါလိမ့်မည်။ ထိုအခါ တရုတ်လူမျိုးက 'ကျွန်တော်တို့ အဘိဓာန်က ခင်ဗျားတို့ အဘိဓာန်ထက်ပိုပြီး နှစ်ပေါင်းများစွာ ရှေးကျပါတယ်။ ပြီးတော့ တရုတ်စကားကိုပြောတဲ့ ဦးရေဟာ ဒီကမ္ဘာမှာဆိုရင် အများဆုံးလည်းဖြစ်ပါတယ်။ ဒါကြောင့် ကျွန်တော်တို့ရဲ့ အဘိဓာန်ထဲမှာ ဖော်ပြထားတဲ့အတိုင်း ခွက်ကို ပိုင် လို့ ခေါ်ခြင်းက မှန်ပါတယ်' လို့ ပြောဆိုချေပပါလိမ့်မည်။

ထိုကဲ့သို့ တစ်ဦးနှင့်တစ်ဦး ပြောဆို ငြင်းခုံနေကြသည့် နေရာသို့ ဗုဒ္ဓဘာသာဝင်တစ်ဦး ရောက်လာပြီး ခွက်ကိုကောက်ကိုင်လိုက်ပြီး ခွက်ထဲမှ လက်ဖက်ရည်ကို သောက်ချလိုက်ပါသည်။ သောက်ပြီးနောက် ငြင်းခုံနေကြသူများကိုလည်း 'ခွက်ကို ကပ်(ပ်) ခေါ်ခေါ်၊ ပိုင် ခေါ်ခေါ်၊ တေဆဲ ခေါ်ခေါ်၊ ကဝမ် ခေါ်ခေါ်၊ ခေါ်ချင်သလိုသာ ခေါ်ကြပါ။ ခွက်ဆိုတာကတော့





တစ်ခုခုကို သောက်ရာမှာ အသုံးပြုဖို့သာ ဖြစ်ပါတယ်။ ခင်ဗျားတို့ ငြင်းခုံနေကြတာတွေကိုရပ်ပြီး သောက်ကြပါ။ ငြင်းခုံပြောဆိုနေရတဲ့အတွက် အာခြောက်နေတာကို ရပ်ပြီး ရေငတ်ပြေအောင် သောက်လိုက်ကြပါဗျာ' ဟု ပြောသည် ဆိုကြပါစို့။ ဤအမြင်သဘောထားသည် ဗုဒ္ဓဘာသာက အခြားအခြားသော ဘာသာများအပေါ်တွင်ထားသော သဘောထားဖြစ်ပါသည်။

**မေး။ ဗုဒ္ဓဘာသာသည် သိပ္ပံနည်းကျပါသလား။**

**ဖြေ။** ဤမေးခွန်းကို မဖြေမီ သိပ္ပံ ဟူသော စကားကို ရှင်းဖို့လိုပါသည်။ အဘိဓာန်တွင် သိပ္ပံဟူသော ဝေါဟာရကို 'မြင်တွေ့နိုင်မှု၊ စမ်းသပ်လုပ်ကိုင်နိုင်မှု၊ သဘာဝတရားများကို ဖော်ထုတ်နိုင်မှုများ ပြုလုပ်နိုင်သော စနစ်တစ်ရပ်အဖြစ် စုစည်းနိုင်သော ဗဟုသုတ အသိပညာ အချက်အလက်များ၊ သို့မဟုတ် တိတိကျကျ လေ့လာနိုင်သော ထိုအချက်အလက်များ၏ အစိတ်အပိုင်း၊ တစ်စိတ်တစ်ဒေသတို့ အကျုံးဝင်ပါသည်' ဟု အဓိပ္ပာယ်ဖွင့်ဆိုထားပါသည်။

အထက်တွင်ဖော်ပြထားသော သိပ္ပံ၏အဓိပ္ပာယ် သတ်မှတ်ချက်များနှင့် မညီညွတ်သောနေရာများ ဗုဒ္ဓဘာသာတွင် ရှိပါသည်။ သို့သော်ဗုဒ္ဓဘာသာ၏ အဓိကအနှစ်သာရဖြစ်သော သစ္စာတရား (၄) ပါးမှာ သိပ္ပံနည်းကျဖြစ်ပါသည်။ ပထမ သစ္စာတရားဖြစ်သော ဒုက္ခသစ္စာသည် ဖော်ပြ၍ရသည်။ ထိတွေ့

ခံစား၍ရသည်။ တိုင်းတာ၍ရသည်။ ဒုတိယသစ္စာတရား ဖြစ်သော သမုဒယသစ္စာမှာ ဒုက္ခဖြစ်ခြင်း၏ အကြောင်းရင်းကို ဖော်ပြပါသည်။ သမုဒယဟူသော တွယ်တာမှု လောဘသည် ဒုက္ခကဲ့သို့ပင် ဖွင့်ဆို၍ရသည်။ တွေ့ထိခံစား၍ရသည်။ တိုင်းတာ၍ရသည်။ တတိယသစ္စာမှာ ဒုက္ခချုပ်ငြိမ်းရာ နိရောဓသစ္စာ ဖြစ်ပါသည်။ ဒုက္ခများမှ ချုပ်ငြိမ်းဖို့အတွက် ဖန်ဆင်းရှင်၊ တန်ခိုးရှင်များ အပေါ်တွင် မှီခိုအားထားရန် မဟုတ်ပါ။ ယုံကြည်မှုသက်သက်၊ ဆုတောင်းမှုသက်သက်ဖြင့်လည်း ဒုက္ခမှ ချုပ်ငြိမ်းခြင်း မရနိုင်ပါ။ ဒုက္ခမှ ချုပ်ငြိမ်းလိုလျှင် ဒုက္ခဖြစ်စေသော အကြောင်းရင်းကို ဖယ်ရှားရမည်သာဖြစ်ပါသည်။ ဤသဘောတရားမှာ သက်သေပြစရာမလိုဘဲ သူ့အလိုလို မှန်ကန်နေသော တရားဖြစ်ပါသည်။ စတုတ္ထသစ္စာမှာ ဒုက္ခချုပ်ငြိမ်းရာ နည်းလမ်းပင် ဖြစ်ပါသည်။ ဒုက္ခချုပ်ငြိမ်းရာနည်းလမ်းမှာလည်း သဘောတရား ယုံကြည်ချက်သက်သက်ဖြင့် လုပ်ဆောင်ခြင်းမဟုတ်ဘဲ လက်တွေ့ကျကျ တိတိကျကျ လုပ်ဆောင်ခြင်း နည်းလမ်းပင် ဖြစ်ပါသည်။ ပြုလုပ်သောနည်း၊ ပြုမှုသောအမှုအရာတို့သည် စစ်ဆေးစမ်းသပ်၍ ရပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာသည် ခေတ်မီသိပ္ပံကဲ့သို့ပင် ဖန်ဆင်းရှင်၊ တန်ခိုးရှင်ကဲ့သို့သော သဘောများကို ထည့်သွင်းထားခြင်း မရှိပေ။ စကြဝဠာနှင့်ပတ်သက်၍ စကြဝဠာ၏ အစနှင့် လှုပ်ရှားလည်ပတ်ပုံ၊ ဖြစ်တည်နေပုံများကိုလည်း သဘာဝတရား အဖြစ်လျက်သာ ရှင်းပြပါသည်။ ဤအချက်များအားလုံးမှာ သိပ္ပံ





နည်းကျနသည့်သဘောများကို ဖော်ညွှန်းနေပါသည်။ မျက်ကန်းယုံကြည်မှုမျိုး ဘယ်သော အခါမှ မပြုလုပ်ရန်၊ မေးမြန်းစုံစမ်းရန်၊ ကိုယ်တိုင် လေ့လာသုံးသပ် ဆင်ခြင်ရန်၊ စူးစမ်းရန်၊ ကိုယ်ပိုင် ကိုယ်တိုင်တွေ့သော အတွေ့အကြုံပေါ်တွင်မူတည်ရန် ဗုဒ္ဓက အကြိမ်ကြိမ်အကြံပြုခဲ့ပါသည်။ အယူဝါဒနှင့် ပတ်သက်၍ စူးစမ်းလေ့လာမှုပြုရာတွင် ဗုဒ္ဓက အောက်ပါအတိုင်း အကြံပြုထားပါသည်။

"သူတစ်ပါးထံမှ တစ်ဆင့်ကြားဖြင့် မှန်ပြီဟု မယူဆပါနှင့်။ ဆရာအဆက်ဆက် ဆောင်ယူခဲ့သော အစဉ်အလာဟူ၍လည်း မှန်ပြီဟု မယူဆနှင့်။ ရှေးပါးသော ရေးကျမ်း စဉ်လာစကားဟူ၍ ဆိုရုံမျှဖြင့်လည်း မှန်ပြီဟု မယူဆကြနှင့်။ မိမိဉာဏ်အမြင်ဖြင့် ကျိုးကြောင်းဆင်ခြင် သုံးသပ်ရုံမျှဖြင့်လည်း မှန်ပြီဟု မယူဆနှင့်။ ကြားဆယူခြင်းဖြင့်လည်း မှန်ပြီဟု မယူဆနှင့်။ လေးစားလောက်သော ပုဂ္ဂိုလ်ဖြစ်သည် ဆိုရုံမျှဖြင့်လည်း သူ့စကားနောက်လိုက်၍ မှန်ပြီဟု မယူဆနှင့်။ တို့ဆရာ ပြောတာပဲ၊ မှန်ပြီဟုလည်း မယူဆပါနှင့်။ ကိုယ်တိုင်သိအောင် လုပ်ပြီးမှ မှန်ပြီ ကောင်းပြီဟု သိလျှင်၊ အပြစ်တင်စရာ မရှိတော့လျှင်၊ ပညာရှိတို့ ချီးမွမ်းလျှင်၊ လက်တွေ့လေ့လာ လေ့ကျင့်သောအခါ ချမ်းသာမှုကို အမှန်ရခဲ့လျှင် ထိုလမ်းကို လိုက်ပါ"

ထို့ကြောင့် မျက်မှောက်ခေတ်အမြင် သိပ္ပံနည်းကျ ဟူသော သဘောအရ ပြောရလျှင် ဗုဒ္ဓဘာသာသည် လုံးဝခြင်း

ချက်မရှိ၊ သိပ္ပံနည်းကျသည်ဟု မဆိုနိုင်သော်လည်း သိပ္ပံနည်းကျနသော အမြင်၊ အယူအဆနှင့် အလေ့အကျင့်များ များစွာ ပါဝင်သည်မှာ သေချာလှပါသည်။ အခြား အခြားသောဘာသာများထက် ပို၍ပင် သိပ္ပံနည်းကျနသည့်ဘာသာ ဖြစ်ပါသည်။ ၂၀ ရာစုနှစ်၏ အစိက သိပ္ပံပညာရှင်ကြီး ဖြစ်သော Albert Einstein က ဗုဒ္ဓဘာသာနှင့်ပတ်သက်၍ အောက်ပါအတိုင်း ပြောဆိုခဲ့ပါသည်။

'အနာဂတ်ဘာသာတရားသည် စကြဝဠာတစ်ခုလုံးနှင့် သက်ဆိုင်သော ဘာသာတရားသာလျှင် ဖြစ်ပါလိမ့်မည်။ လူတစ်ခု ပုံကြည်သည့် ဖန်ဆင်းရှင်ဘုရား(*Personal God*) ဟူသော အယူအဆအစွဲထက် သာလွန်ကျော်ကဲပြီး တရားသေဝါဒနှင့် အစဉ်အလာယုံကြည်မှုများကို ရှောင်ရှားပါလိမ့်မည်။ ထိုအနာဂတ်ဘာသာတရားသည် သဘာဝတရားနှင့် စိတ်ဝိညာဉ် (*Spiritual*) တရား နှစ်ပါးလုံးကို ခြုံ၍ အကျုံးဝင်ရမည် ဖြစ်ပါသည်။ အရာရာအားလုံးနှင့် တွေ့ထိမှု၊ ထိုတွေ့ထိမှုကြောင့် ဖြစ်ပေါ်လာသော ဘာသာရေးအမြင် အယူအဆ၊ သဘောများ၊ ရုပ်နာမ်သဘာဝနှင့် ရုပ်နာမ်သဘာဝတို့၏အစိမ့်ဟယ်ရှိရှိ ပေါင်းစည်းဆက်သွယ်မှုသဘော အယူအဆများ အကျုံးဝင်လာမည် ဖြစ်ပါသည်။ ဤသဘောတရားများကို ဗုဒ္ဓဘာသာက ဖြေရှင်းပေးနိုင်ပါသည်။ ခေတ်မီသိပ္ပံလိုအပ်ချက်နှင့် ကိုက်ညီသော ဘာသာတရားတစ်ခု ရှိသည်ဆိုလျှင် ထိုဘာသာသည် ဗုဒ္ဓဘာသာပင် ဖြစ်ပေမည်'



## အခြေခံ ဗုဒ္ဓအယူအဆများ

**မေး။** ဗုဒ္ဓ၏အဓိကကျသော အဆုံးအမများကို ပြောပြပါ။

**ဖြေ။** လှည်းဘီး၊ ဘီးထောက်တို့သည် လှည်းဝင်ရိုးအုံပေါ်တွင် တည်မှီ နေကြသကဲ့သို့ပင် ဗုဒ္ဓ၏အဆုံးအမ အများစုသည် သစ္စာတရားလေးပါးတွင် အခြေပြုထားပါသည်။ ထိုလေးပါးသော သစ္စာတရားတို့သည် အမြဲမှန်ကန်နေသောသဘောရှိပြီး ထိုမှန်ကန်သော သဘောကို နားလည်သဘောပေါက်သူသည် မြင့်မြတ်မှန်ကန်သော သဘောတရားကို ရရှိသည့်အတွက် မြင့်မြတ်ပြီး ရင့်ကျက်တည်ငြိမ်သည့်သဘော ဆောင်ပါသည်။

**မေး။** မြင့်မြတ်သည့်ပထမဆုံးသော သစ္စာတရားကို ပြောပြပါ။

**ဖြေ။** ဘဝဆိုသည်မှာ ဒုက္ခဖြစ်သည်ဟု ပထမသစ္စာတရားက ဆိုပါသည်။ သက်ရှင်ရပ်တည်နေဖို့ လူတို့သည် ဒုက္ခကိုရင်ဆိုင်ကြရပါသည်။ ဒုက္ခတစ်မျိုးမျိုး မခံစားရဘဲလျက် သက်ရှင်နေနိုင်ဖို့ဆိုသည်မှာ လုံးဝမဖြစ်နိုင်ပါ။ ကျွန်ုပ်တို့သည် မကျန်း

မမာခြင်း၊ ဖျားနာခြင်း၊ ထိခိုက်နာကျင်ခြင်း၊ ပင်ပန်းနွမ်းနယ်ခြင်း၊ အိုမင်းရင့်ရော်ခြင်း၊ နောက်ဆုံးတွင် သေဆုံးရခြင်း စသည့် ကာယိကဒုက္ခများ၊ အထီးကျန်၍နေရခြင်း၊ စိတ်ပူပန်သောကရောက်ရခြင်း၊ ကြောက်ရွံ့စိုးရိမ်ရခြင်း၊ စိတ်တုန်လှုပ်ချောက်ချားရခြင်း၊ စိတ်ပျက်အားငယ်ခြင်း၊ ဒေါသထွက်ခြင်း၊ စိတ်ပင်ပန်းနွမ်းနယ်ရခြင်း စသည့် စေတသိကဒုက္ခများကို လူ့ဘဝတွင် ခံစားကြရသည်။ ဤဒုက္ခများကို ရှောင်၍ရှား၍ မရနိုင်ပါ။

**မေး။ ဘဝကို ဒုက္ခအဖြစ်မြင်ခြင်းသည် မကောင်းမြင်ဟု မယူဆနိုင်ဘူးလား။**

**ဖြေ။** အဘိဓာန်တွင် မကောင်းမြင်အယူကို 'ဖြစ်လာသမျှ မကောင်း ဖြစ်လိမ့်မည်ဟု စဉ်းစားတွေးခေါ်သော အလေ့အကျင့်' ဟု ဖွင့်ဆိုထားပါသည်။ တစ်ဖန် 'မကောင်းမှုသည် ကောင်းမှုထက် ပို၍အစွမ်းထက်သည်' ဟူသော အယူအဆဟူ၍လည်း အဘိဓာန်တွင် ဖွင့်ဆိုထားပါသည်။ သို့သော် ဗုဒ္ဓဘာသာသည် အထက်ပါ အဘိဓာန်ဖွင့်ဆိုချက် နှစ်ရပ်လုံးကို ညွှန်ပြခြင်းမပြုသကဲ့သို့ပင် ပျော်ရွှင်မှုရှိသည်ဆိုသော အချက်ကိုလည်း ငြင်းဆန်ခြင်းမပြုခဲ့ပါ။ သက်ရှင်နေထိုင်ခြင်းတွင် ကာယိက ဒုက္ခ၊ စေတသိက ဒုက္ခများကို မလွဲမသွေ ခံစားကြရသည် ဟူ၍သာ ရိုးရိုးစင်းစင်း ပြောခြင်းဖြစ်ပါသည်။ ထိုဖော်ပြချက်မှာ ရိုးစင်းမှန်ကန်သဖြင့် မဖြစ်နိုင်ဟု ငြင်းချက်ထုတ်၍ မရနိုင်ပါ။ များသောအားဖြင့် ဘာသာရေး အယူအဆများတွင် အဓိကအချက်





အချုပ်ကျသော အယူအဆမှာ သက်သေအထောက်အထား ပြရန်မှာ ခက်ခဲပြီး မဖြစ်နိုင်သော အစဉ်အလာ ယုံကြည်ချက်များ၊ ဆန်းကျယ်သော ဒဏ္ဍာရီပုံပြင်များ၊ ယုံကြည်ချက်များသာ ဖြစ်တတ်ကြပါသည်။ သို့သော် ဗုဒ္ဓဘာသာသည် မငြင်းပယ်နိုင်သော၊ သက်သေပြနိုင်သော လက်တွေ့ အတွေ့အကြုံဖြင့်စပါသည်။ ထိုအတွေ့အကြုံမှာ လူတိုင်းတွေ့ကြုံနေရသော အတွေ့အကြုံဖြစ်ပြီး လူတိုင်းကျော်လွှားရန် ကြိုးစား အားထုတ်နေသော အတွေ့အကြုံ ဖြစ်ပေသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာသည် တကယ်လက်တွေ့စစ်မှန်ပြီး အားလုံးနှင့်သက်ဆိုင်သော ဘာသာတစ်ခု ဖြစ်ပါသည်။ လူတိုင်းနှင့်သက်ဆိုင်သော အဓိကသော့ချက်ဖြစ်သည့် ဒုက္ခသဘောကို တိုက်ရိုက်ပြညွှန်ပြီး ထိုဒုက္ခကို ကျော်လွှားသည့် နည်းလမ်းကိုလည်း ညွှန်ပြပါသည်။

**မေး။ မြင့်မြတ်သော ဒုတိယမြောက်သစ္စာတရားသည် ဘာပါလဲ။**

**ဖြေ။** ဒုက္ခ၏ အကြောင်းရင်းသည် သမုဒယဖြစ်သည်ဟူသော အချက်သည် ဒုတိယမြောက် မှန်ကန်သောသစ္စာတရား ဖြစ်ပါသည်။ စိတ်ဒုက္ခရောက်ရမှုများကို သုံးသပ်ကြည့်လျှင် လိုချင်တပ်မက်မှု သမုဒယကြောင့် ဒုက္ခဖြစ်သည်ဆိုသည်မှာ သိသာထင်ရှားလှပါသည်။ တစ်ခုခုကို လိုချင်သော တပ်မက်တွယ်တာစိတ်ဖြစ်ပြီး မရနိုင်သည့် အခါမျိုးတွင် စိတ်ဒုက္ခရောက်ရပါသည်။ တစ်ခုခုသည် မျှော်လင့်ထားသည့်အတိုင်း ဖြစ်မလာ

သောအခါ စိတ်ပျက်အားငယ်ခြင်း ဖြစ်ရပါသည်။ တစ်စုံတစ်ယောက်က မိမိကို နှစ်သက်သဘောကျစေလိုသော သဘောရှိသော်လည်း ထိုလူက မိမိကို မနှစ်သက်လျှင် စိတ်ထဲတွင် နာကျင်မှုဒုက္ခကို ခံစားရပါသည်။ ရလိုသောအရာကို ရပင်ရငြားသော်လည်း ပျော်ရွှင်မှုကို မရဘဲရှိတတ်ပါသည်။ ရသောအရာပေါ်တွင် ကြာသောအခါ ရိုးအီသွားပြီး ငြီးငွေ့လာသောကြောင့်လည်းကောင်း၊ စိတ်ဝင်စားမှု လျော့ကျလာသောကြောင့်လည်းကောင်း၊ အခြားတစ်ခုခုကိုပို၍ လိုချင်တပ်မက်စိတ် ပေါ်လာသောကြောင့်လည်းကောင်း ရလိုသောအရာကို ရပင်ရငြားသော်လည်း တကယ့်ပျော်ရွှင်မှုကို မရတတ်ကြခြင်း ဖြစ်ပါသည်။ 'မိမိလိုသောအရာ ရရှိခြင်းသည်ပင်လျှင် မိမိ၏ ပျော်ရွှင်မှု၊ စိတ်ချမ်းသာမှုကို အာမခံချက်မပေးနိုင်' ဟူသော သဘောမှာ ဒုတိယသစ္စာတရား၏ အရှင်းဆုံး ပင်ကိုသဘောဖြစ်ပါသည်။ လိုသည်ကိုရဖို့ အစဉ်အဆက်မပြတ် ရုန်းကန်လှုပ်ရှားကြိုးစားနေရပြီး လိုချင်သော လောဘကိုလည်း အမျိုးမျိုးပြောင်းလဲနေခြင်းသည် ဘဝတွင် ကြုံနေရသောသဘောဖြစ်ပါသည်။ လိုချင်တပ်မက်နေမှုသည် ကျေနပ်မှုနှင့် ပျော်ရွှင်ချမ်းမြေ့မှုကို ဆိတ်ကွယ်စေပါသည်။

**မေး။ လိုချင်တပ်မက်မှုတို့သည် ကာယိကဒုက္ခကို မည်ကဲ့သို့ဖြစ်စေပါသလဲ။**

ဖြေ။ ဘဝတစ်လျှောက်လုံး ဟိုဟိုသည်သည် လိုချင် တပ်မက်





မှုများ လှုတို့တွင်ရှိပေသည်။ အထူးသဖြင့် အသက်ရှင်ပြီး ရှည်ကြာစွာနေလိုမှု ဘဝတဏှာ၊ ဘဝမက်မောမှုသည် အလွန်အားကြီးသော စွမ်းအင်ကို ဖြစ်ပေါ်စေပြီး ထိုဘဝတဏှာ စွမ်းအင်၏ တွန်းအားကြောင့် နောက်ထပ်တစ်ဖန် ဘဝအသစ်တွင် ပြန်လည်မွေးဖွားခြင်း ဖြစ်လာရပါသည်။ မွေးဖွားလာလျှင် ရုပ်ခန္ဓာသည် ရှိလာရပါသည်။ ရုပ်ခန္ဓာရှိလာလျှင် ရုပ်၏ပင်ကိုသဘာဝအရ ဖောက်လွဲဖောက်ပြန်ဖြစ်ပြီး ရောဂါရခြင်း၊ နာခြင်း စသည့် ကာယိကဒုက္ခများ ဖြစ်လာပါတော့သည်။ လိုချင်သည်များ ရအောင် ကြိုးစားအားထုတ်ရလွန်းသဖြင့် စိတ်သာမက ကိုယ်ပါ ပင်ပန်းနွမ်းနယ်မှုများ၊ ခြေကုန်လက်ပန်းကျမှုများ ဖြစ်တတ်ပါသည်။ကိုယ်ခန္ဓာသည် အချိန်ကြာလာသည်နှင့်အမျှ အိုမင်းရင့်ရော်လာပြီး နောက်ဆုံးတွင် သေဆုံးခြင်းဖြင့် အဆုံးသတ်ရပါသည်။ ထို့ကြောင့် ဘဝကိုတပ်မက်မှု ဘဝတဏှာသည် အသစ်တစ်ဖန် ပြန်လည်ပြီး ဘဝသစ်ကို မွေးဖွားစေသော အကြောင်းဖြစ်၍ ကာယိကဒုက္ခများကို ဖြစ်ပေါ်စေသော အကြောင်းလည်း ဖြစ်ပါသည်။

**မေး။ ဟုတ်ကဲ့၊ ကောင်းပါပြီ။ သို့သော်လည်း လိုချင်မှုများ လုံးလုံးလျားလျား မရှိတော့လျှင် ဘာမှမရနိုင်တော့သဖြင့် ဘာမှလည်း အောင်မြင်မည် မဟုတ်တော့ပါ။ ယင်းသို့ဆိုလျှင် တိုးတက်မှုဆိုသည်မှာ ဖြစ်နိုင်ပါတော့မည်လား။**

**ဖြေ။** မှန်ပါသည်။ ဗုဒ္ဓ၏ အလိုအရ ကျွန်တော်တို့၏ လိုချင်တပ်မက်မှုလောဘများ အတောမသတ်ဘဲ ဟိုဟို သည်သည် အဆက်မပြတ် လိုချင်တပ်မက်နေမှုသည် ဒုက္ခဖြစ်ခြင်း၏ အကြောင်းရင်းဖြစ်သဖြင့် ထိုကဲ့သို့တပ်မက်သောစိတ်မျိုး စဉ်ဆက်မပြတ်ဖြစ်နေမှုကို ရပ်တန့်ကရပ်နိုင်အောင် ကြိုးစားသင့်လှပါသည်။

ဗုဒ္ဓက လူတိုင်းအား လိုချင်သောလောဘနှင့် လိုအပ်သောဆန္ဒကို ကွဲပြားစွာ ခွဲခြားနိုင်အောင် ညွှန်ပြခဲ့ပါသည်။ မိမိဘဝအတွက် လိုအပ်ချက်ဆန္ဒကို ပြည့်ဝအောင် ကြိုးစားရပါမည်။ လိုချင်သော လောဘရမ္မက်များကိုလည်း ပြန်လည်သုံးသပ်ပြုပြင်ယူရပါမည်။ လိုအပ်သောဆန္ဒများမှာ ပြည့်ဝအောင်ဖြည့်နိုင်သော်လည်း လိုချင်သောတဏှာမှာကား အောက်ခြေပွင့်နေသောပုလင်းကဲ့သို့ ထည့်တိုင်းဝင်ပြီး ဘယ်သောအခါမှပြည့်နိုင်တော့မည်မဟုတ်ပါ။

လူ့ဘဝအတွက် အခြေခံကျပြီး အရေးကြီးသော လိုအပ်ချက်များရှိပါသည်။ ထိုလိုအပ်ချက်များ ပြည့်ဝအောင်ရည်မှန်းပြီး ကြိုးစားအားထုတ်ရပါမည်။ လိုအပ်ချက်ထက် ပိုနေသော တပ်မက်မှုလောဘများကို တဖြည်းဖြည်းချင်း လျှော့နည်းလာစေရပါမည်။ အားလုံးကိုခြုံလိုက်လျှင် ဘဝ၏ ရည်ရွယ်ချက်မှာဘာလဲဟူ၍ မေးလာခဲ့လျှင် ကျေနပ်ရောင့်ရဲပြီး စိတ်ပျော်ရွှင်ချမ်းမြေ့ဖို့သာဖြစ်သည်ဟု ဆိုရပါမည်။





**မေး။ ဘဝတစ်ဖန် ပြန်လည်မွေးဖွားခြင်းအကြောင်းကို ပြောခဲ့ပါသည်။ ထိုကိစ္စနှင့်ပတ်သက်ပြီး သက်သေအထောက်အထားများ ရှိပါသလား။**

**ဖြေ။** ခိုင်ခိုင်လုံလုံပြနိုင်သော သက်သေအထောက်အထား များ စွာရှိပါသည်။ သို့သော် ယင်းကိစ္စကို နောက်ပိုင်းမှ အသေးစိတ်ပြောပါမည်။ သစ္စာတရားနှင့် ပတ်သက်ပြီး ဆက်ကြရအောင်။

**မေး။ မြင့်မြတ်သော တတိယမြောက် သစ္စာတရားသည် ဘာပါလဲ။**

**ဖြေ။** မြင့်မြတ်သော တတိယမြောက် သစ္စာတရား၏ သဘောမှာ အမှန်တကယ် ကြုံတွေ့ရတတ်သောဒုက္ခများကို ကျော်လွှားနိုင်ပြီး ချမ်းမြေ့မှုကို ရယူနိုင်သည်ဟူ၍ ဖြစ်ပါသည်။ ဤသစ္စာတရားသည် သစ္စာတရားလေးပါးတွင် အလွန်အရေးကြီးသော သစ္စာတရားဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် မှန်ကန်သော ချမ်းမြေ့မှုနှင့် ရောင့်ရဲမှုတို့သည် ဖြစ်နိုင်သည်ကို ဗုဒ္ဓကိုယ်တိုင် အသေအချာပြထားသောကြောင့် ဖြစ်ပါသည်။ အသုံးမကျသော အပိုလောဘများ၊ တပ်မက်မှုများကို စွန့်လွှတ်ပြီး ဘဝတွင် နေ့စဉ်ကြုံတွေ့သမျှ ရရှိသမျှဖြင့် ရောင့်ရဲနေတတ်အောင် လေ့ကျင့်မည်၊ ဘဝတွင် ကြုံကြိုက်လာသော ပြဿနာများကိုလည်း ကြောက်ရွံ့စိတ်၊ ဒေါသစိတ်၊ မုန်းတီးစိတ်များ ကင်းစွာ ရင်ဆိုင်ဖြေရှင်းမည်ဆိုပါက ကျွန်ုပ်တို့သည် လောဘကြောင့်ဖြစ်သော ဒုက္ခများမှ ကင်းငြိမ်းပြီး လွတ်မြောက်

ပျော်ရွှင်ချမ်းမြေ့မှုကို ရရှိလာမည်ဖြစ်ပါသည်။ ထိုကဲ့သို့ ဘဝကို နေနိုင်ခြင်းသည်သာလျှင် ဘဝကို ပြည့်ဝစွာရင်ဆိုင် နေထိုင်မှု စတင်ခြင်း ဖြစ်ပါသည်။ အဆုံးမရှိသော တစ်ကိုယ်ကောင်းဆန်သည့် လောဘများကို ပြည့်ဝအောင်ကြိုးစားနေရခြင်းများ လုံးဝမရှိတော့သဖြင့် အခြားသော လူများ၏ လိုအင်များကို ပြည့်ဝအောင် ပိုင်းဝန်းကူညီ ဖြည့်ဆည်းပေးနိုင်သော အချိန်အင်အားနှင့် အခွင့်အရေးများ ရလာပါသည်။ ဤအဆင့်တွင် စေတသိက ဒုက္ခများမှကင်းဝေးပြီး အမှန်တကယ် ငြိမ်းအေးမှုကို ရရှိပါသည်။ ဤအဆင့်ကို နိဗ္ဗာန်ဟု ခေါ်ပါသည်။

**မေး။ နိဗ္ဗာန်ဆိုတာ ဘာလဲ၊ နိဗ္ဗာန်သည် ဘယ်မှာလဲ။**

ဖြေ။ နိဗ္ဗာန်၏ သဘောသည် အချိန်နှင့်နေရာ အကန့်အသတ်ဘောင်များမှ ကျော်လွန်သောသဘော ဖြစ်ပါသည်။ သို့ပါ၍ အချိန်နှင့်နေရာ အကန့်အသတ် ဘောင်အတွင်းမှ နိဗ္ဗာန်အကြောင်းပြောပြရန် ခက်ခဲပါသည်။ စဉ်းစားရန်ပင် ခက်ခဲလှပါသည်။ အတွေးနှင့်စကားလုံးတို့သည် အချိန်နှင့်နေရာ အကန့်အသတ်ဘောင်အတွင်းမှာ ရှိသောအရာများ-အခြင်းအရာများကို ဖော်ညွှန်းပြဆိုရန် လုံလောက်ပါသည်။ နိဗ္ဗာန်သည် အချိန် အကန့်အသတ်လွန်သည့်သဘောဖြစ်၍ လှုပ်ရှားသည့်သဘောကင်းပြီး အိုမင်းရင့်ရော်ခြင်းသဘော၊ သေဆုံးခြင်းသဘောလည်း ကင်းစင်ပါသည်။ ထို့ကြောင့် နိဗ္ဗာန်သည် ထာဝရဖြစ်ပါသည်။ နိဗ္ဗာန်သည် နေရာအကန့်အသတ်ဘောင်ကို ကျော်လွန်





သွားသဖြင့် ဘောင်အကန့်အသတ် မရှိပါ။ ငါ ဟူသော အတ္တသဘောလည်း မရှိပါ။ အတ္တမဟုတ်ခြင်း သဘောလည်း မရှိပါ။ ဖြစ်ပျက်ပြုပြင်သည့် သဘောလည်း မရှိပါ။ ထို့ကြောင့် နိဗ္ဗာန်သဘောသည် အကန့်အသတ်မရှိသည့်သဘော ဖြစ်ပါသည်။ နိဗ္ဗာန်သည် အကြီးကျယ်ဆုံး၊ အကောင်းဆုံးသော ပျော်ရွှင်ချမ်းမြေ့မှု ဖြစ်သည်ဟု ဗုဒ္ဓကိုယ်တိုင် အသေအချာ မိန့်ထားပါသည်။

နိဗ္ဗာန်သည် အမြင့်မြတ်ဆုံးသော ချမ်းမြေ့ငြိမ်းအေးမှု ဖြစ်သည်။ *Nirvana is the highest happiness.*

**မေး။ အချိန်နှင့်နေရာအကန့်အသတ်ဘောင်မှ ကျော်လွန်နေသော သဘောသည်ရှိကြောင်း သက်သေအထောက်အထားပြနိုင်ပါသလား။**

ဖြေ။ မပြနိုင်ပါ။ သို့သော် နိဗ္ဗာန်ရှိခြင်းသဘောကိုမူ ညွှန်းပြောဆိုနိုင်ပါသည်။ အချိန်နှင့်နေရာအကန့်အသတ်ဖြင့် လှုပ်ရှားသောသဘောမှာ ကျွန်ုပ်တို့ကြုံတွေ့နေရသော လောကကြီးပင် ဖြစ်ပါသည်။ ထိုသဘောသည် အမှန်တကယ် ရှိသကဲ့သို့ပင် အချိန်နှင့် နေရာ အကန့်အသတ်ဘောင်မှ ကင်းလွတ်သော နိဗ္ဗာန်သဘောလည်းရှိသည်ကို ထောက်ယူဖော်ညွှန်း ပြောနိုင်ပါသည်။ နိဗ္ဗာန်ရှိသည်ကို ကျွန်ုပ်တို့အနေဖြင့် သက်သေမပြနိုင်သော်လည်း နိဗ္ဗာန်ရှိသည်ဟု ဗုဒ္ဓကိုယ်တိုင်က ပြောဆိုခဲ့ပါသည်။ နိဗ္ဗာန်နှင့်ပတ်သက်၍ ဗုဒ္ဓက အောက်ပါအတိုင်း ပြောဆိုခဲ့ပါသည်။

မမွေးဖွားခြင်း၊ မဖြစ်ပေါ်ခြင်း၊ မဖန်တီး မပြုလုပ်ရခြင်း၊ မပေါင်းစည်းခြင်း သဘောသည် ရှိပါသည်။ ဤမမွေးဖွား၊ မဖြစ်ပေါ်၊ မပြုလုပ်၊ မပေါင်းစည်းခြင်းများ မရှိခဲ့ပါလျှင် မွေးဖွားခြင်း၊ ဖြစ်ပေါ်ခြင်း၊ ဖန်တီးပြုလုပ်ခြင်း၊ ပေါင်းစည်းဖြစ်ပေါ်ခြင်းများမှ ကင်းလွတ်အောင် ကြိုးစားရခြင်းလည်း ရှိစရာမလိုတော့ပေ။ သို့သော် မမွေးဖွားခြင်း၊ မဖြစ်ပေါ်ခြင်း၊ မဖန်တီး မပြုလုပ်ရခြင်း၊ မပေါင်းစည်းခြင်း သဘောတို့သည် အမှန်ရှိသည့်အတွက် မွေးဖွားခြင်း၊ ဖြစ်ပေါ်ခြင်း၊ ပြုလုပ်ခြင်း၊ ပေါင်းစည်းခြင်းသဘောတို့မှ ကြိုးစားလွတ်မြောက်ခြင်း သဘောသည် ရှိခြင်းဖြစ်ပါသည်။

ကိုယ်တိုင်ရသည့်အခါ နိဗ္ဗာန်သဘောကို ကောင်းစွာ သိလာကြပါလိမ့်မည်။ ရသည့်အချိန်တိုင်အောင် လက်တွေ့ကျင့်ကြံအားထုတ်ကြရမည် ဖြစ်ပါသည်။

○



## ဗုဒ္ဓဘာသာနှင့် ဖန်ဆင်းရှင်ဘုရားဟူသော အယူအဆ

မေး။ ဗုဒ္ဓဘာသာဝင်တို့သည် ဖန်ဆင်းရှင်ဘုရားကို ယုံကြည်ကြပါသလား။

ဖြေ။ ဗုဒ္ဓဘာသာဝင်တို့တွင် ဖန်ဆင်းရှင်ဘုရား မရှိပါ။ ဖန်ဆင်းရှင်ဘုရား မရှိရသည့် အကြောင်းများစွာရှိပါသည်။ ခေတ်သစ် လူမှုရေးဗေဒပညာရှင်၊ စိတ္တဗေဒပညာရှင် တစ်ဦးကဲ့သို့ပင် ဗုဒ္ဓတွင် ယုံကြည်ချက်ရှိပါသည်။ ဘာသာရေး အယူအဆများ၊ အထူးသဖြင့် ဂေါ့ဒ်ဟူသော ဖန်ဆင်းရှင်ဘုရား အယူအဆသည် လူတို့၏ ကြောက်စိတ်တွင် အခြေခံ၍ ဖြစ်ပေါ်လာသော သဘောမျှသာဖြစ်သည်ဟု ယုံကြည် လက်ခံပါသည်။ ဗုဒ္ဓက အောက်ပါအတိုင်း ပြောခဲ့ပါသည်။

ကြောက်စိတ်ဖိစီး၊ ချည်နှောင်ခံရမှုဖြင့် လူတို့သည် အားကိုးအားထားပြုလောက်သည့် တောင်များ၊ တောများ၊ သစ်ပင်များ၊ ကျောက်ဆောင်များသို့ သွားကြခြင်း ဖြစ်ပါသည်။

ရှေးကလူများသည် တောအနှံ့ရာယ်ထူပြောပြီး ရိုင်းစိုင်း

သည့် ကမ္ဘာလောကကြီးတွင် နေကြရပါသည်။ တိရစ္ဆာန်အရိုင်းများ၏ ဘေးအန္တရာယ်ကိုလည်း ကြောက်ကြရသည်။ အစားအစာ လုံလုံလောက်လောက် မရမည့် အနေအထားကိုလည်း စိုးရိမ်ထိတ်လန့်ရသည်။ ထိခိုက်မှု၊ နာမကျန်းဖြစ်မှုများကိုလည်း ကြောက်လန့်ကြရသည်။ ထို့အပြင် သဘာဝ အဖြစ်အပျက်များဖြစ်သော မိုးရွာနှံခြင်း၊ လျှပ်လက်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်း စသည်တို့သည်လည်း ရှေးခေတ်လူသားတို့ အမြဲကြုံတွေ့နေရသော သဘာဝအန္တရာယ်၊ အဖြစ်အပျက်များဖြစ်ပါသည်။ အန္တရာယ် အသွယ်သွယ်ကြားတွင် ဘဝလုံခြုံမှုကင်းမဲ့လာသည့်အတွက် လူသားသည် ကောင်းသောအချိန်တွင် သက်သာရာရဖို့၊ ဘေးအန္တရာယ်နှင့် ရင်ဆိုင်ရသော ကာလတွင် ရဲစွမ်းသတ္တိပေးဖို့၊ အမှားမှား အယွင်းယွင်းဖြစ်သော အခါမျိုးတွင် စိတ်ကို ဖျောင်းဖျပြီး သက်သာမှုပေးဖို့တို့အတွက် ဖန်ဆင်းရှင်ဘုရား (ဂေါ်ဒ်) ဟူသော ကယ်တင်ရှင်၊ ဖေးမရှင်၊ တန်ခိုးရှင် အယူအဆကို တီထွင်ယူခြင်းဖြစ်ပါသည်။ မျက်မှောက်ကာလတွင်လည်း လူတို့သည် ဘေးဒုက္ခများနှင့် နဖူးတွေ့ဒူးတွေ့ ကြုံကြိုက်လာသည့်အခါများတွင် ဘာသာတရားကို ပို၍ဖက်တွယ်တတ်သည်ကို သတိပြုမိမည်ဖြစ်ပါသည်။ ဘုရားများအား သက်ဝင်ယုံကြည်ခြင်းသည် ဘဝကို ရင်ဆိုင်ရာတွင် လိုအပ်သော စိတ်ခွန်အင်အားကို ပေးစွမ်းသည်ဟူ၍ ပြောဆိုကြသည်ကို ကြားဖူးကြမည် ဖြစ်ပါသည်။ တချို့ကလည်း သူတို့ လိုအပ်သည့်အခါ ဆုတောင်းပြီး၊ ဆုတောင်း





သည့်အတိုင်း ဖြည့်ဆည်းကူညီ မစပေးသည့်အတွက် ဘုရားတစ်ဆူဆူကို သတ်သတ်မှတ်မှတ် ကိုးကွယ်ပါသည်ဟု ပြောဆိုကြသည်ကိုလည်း ကြားဖူးတွေ့ဖူးကြမည် ဖြစ်ပါသည်။ ဤအချက်များက 'အားကိုးရာ တန်ခိုးရှင်ဘုရားရှင် ဟူသော အယူအဆသည် လူတို့၏ သောကနှင့် အကြောက်တရားများကို တုံ့ပြန်မှုရလဒ်အဖြစ် ပေါ်ပေါက်လာခြင်း ဖြစ်သည်' ဟူသော ဗုဒ္ဓ၏ ညွှန်ပြချက်ကို ထောက်ခံသက်သေပြနေဟန် ရှိပါသည်။ လူသားတို့အနေဖြင့် မိမိတို့၏ ကြောက်စိတ်များကို နားလည်အောင်ကြိုးစားဖို့၊ လောဘ ကပ်ငြိစိတ်များကိုလျှော့ချဖို့၊ မပြုပြင် မပြောင်းလဲနိုင်သော ဘဝတွင် ကြုံရမည့် ကိစ္စများ၊ အရေးအရာများကိုမူ ရဲရင့်တည်ငြိမ်စွာ လက်ခံဖို့ ကြိုးစားလေ့ကျင့်ကြရန် ဗုဒ္ဓက ညွှန်ကြားဆုံးမခဲ့ပါသည်။ အကြောက်တရားကို ကျိုးကြောင်းမဲ့သော ယုံကြည်မှုဖြင့် ဗုဒ္ဓက အစားမထိုးခဲ့ပါ။ လူတို့၏ အကြောက်တရားကို ကျိုးကြောင်းညီညွတ်သော နားလည်မှုဖြင့်သာလျှင် အစားထိုးခဲ့ပါသည်။

ဖန်ဆင်းရှင်ဘုရားဟူသော အယူအဆနှင့်ပတ်သက်၍ ဗုဒ္ဓက မယုံကြည်ရသည့် ဒုတိယအကြောင်းတစ်ချက်လည်း ရှိပါသေးသည်။ ဖန်ဆင်းရှင်ဘုရားဟူသော အယူအဆနှင့်ပတ်သက်၍ အထောက်အကူပြု သက်သေအဖြစ် ရပ်တည်မည့် အထောက်အထား ရှိဟန်မပေါ်သောကြောင့် ဖြစ်ပါသည်။ ကမ္ဘာပေါ်တွင်ဘာသာများစွာရှိပါသည်။ ထိုဘာသာဝင်များအားလုံးကပင် သူတို့အသီးသီးတွင်သာ ဘုရား၏ နှုတ်ကပါဌ်

တော် အဆုံးအမများရှိပြီး ထိုအဆုံးအမများကို သူတို့၏ မြင့်မြတ်သောဓမ္မစာအုပ်များတွင် သိမ်းဆည်း ထားသည်ဟု ပြောကြသည်။ သူတို့အသီးသီးသည် သူတို့ ယုံကြည်သော ဘုရား၏သဘောကို ကောင်းစွာ နားလည်ကြပြီး သူတို့၏ဘုရားသာလျှင် အစစ်အမှန်ရှိသည်၊ အခြား အခြားသော ဘာသာဝင်များ၏ ဘုရားများသည် မရှိဟု ယုံကြည်ပြောဆိုကြပါသည်။ တချို့ကလည်း ဘုရားသည် အမျိုးသားဘာဝဖြစ်သည်ဟူ၍လည်းကောင်း၊ တချို့ကလည်း ဘုရားသည် အမျိုးသမီးဘာဝဖြစ်သည်ဟူ၍ လည်းကောင်း၊ တချို့ကလည်း ဘုရားသည် အမျိုးသားဘာဝ၊ အမျိုးသမီးဘာဝမဟုတ်ဘဲ ကြားဘာဝဖြစ်သည်ဟူ၍ လည်းကောင်း ပြောဆိုတတ်ကြပါသည်။သူတို့သည် သူတို့ယုံကြည်သော ဘုရားရှိကြောင်းနှင့် ပတ်သက်၍ သက်သေပြစရာ အထောက်အထား များစွာရှိသည့်အတွက် လွန်စွာအားရကျေနပ် ဖြစ်ကြပါသည်။ သို့သော် အခြားသော ဘာသာဝင်များက ၎င်းတို့၏ ကိုးကွယ်ရာဘုရားရှိကြောင်း သက်သေပြကြသောအခါ မယုံကြည်နိုင်သောသဘောဖြင့် ပြုံးကြ၊ ရယ်ကြပါသည်။ များစွာသော ဘာသာတို့သည် ရာစုနှစ်ပေါင်းများစွာ ကြာညောင်းသည့်အထိ သူတို့ ယုံကြည်သော ဘုရားရှိမှုနှင့် ပတ်သက်၍ သက်သေပြရန်ကြိုးစားခဲ့ကြသော်လည်း တကယ် စစ်မှန်သော၊ လက်တွေ့ကျသော၊ တိကျသော၊ မိမိရရပြနိုင်သော၊ မငြင်းနိုင်သော သက်သေအထောက်အထား မတွေ့သည်မှာ အလွန်ထူးဆန်း အံ့သြစရာဖြစ်ပါသည်။ အ





ဘယ်ကြောင့်ပါနည်း။

ဖန်ဆင်းရှင်ဘုရားဟူသော အယူအဆနှင့် ပတ်သက်၍ ဗုဒ္ဓက မယုံကြည်ရသည့် တတိယ အကြောင်းတစ်ချက်မှာ ထိုယုံကြည်ချက်သည် မလိုအပ်သောကြောင့် ဖြစ်ပါသည်။ တချို့ကလည်း စကြဝဠာအစ ဖြစ်တည်မှုနှင့် ပတ်သက်၍ ဖြေရှင်းပေးနိုင်ရန် ဘုရားရှိပါသည်ဟု ယုံကြည်ရန်လိုပါသည်ဟု ပြောကြသည်လည်း ရှိပါသည်။ သို့သော် စကြဝဠာအစ ရှင်းပြဖို့ အတွက် ဘုရားရှိသည်ဟု ယုံစရာမလိုအပ်ပါ။ ယနေ့ သိပ္ပံပညာက စကြဝဠာဖြစ်ပေါ် တည်တံ့လာခြင်းနှင့်ပတ်သက်၍ ဘုရားဟူသော အယူအဆလုံးဝမပါဘဲ ရှင်းလင်းပေးမှုများ ရှိနေပြီဖြစ်ပါသည်။ တချို့ကလည်း အဓိပ္ပာယ်ပြည့်ဝ၍ ပျော်ရွှင်စရာကောင်းသော ဘဝကို ဦးတည်ရယူနိုင်ဖို့အတွက် ဘုရား ရှိသည်ဟု ယုံကြည်ရန်လိုသည်ဟု ဆိုကြသူများလည်း ရှိပါသည်။ ဤအချက်မှာလည်း မလိုအပ်ပါ။ သန်းပေါင်းများစွာသော လွတ်လပ်စွာ တွေးတောသူများ၊ ဘာသာတရား လက်ကိုင်မထားသူများသည် ဘုရားရှိသည်ဟု မယုံကြည်ကြပါဘဲလျက် တန်ဖိုးရှိသော၊ ပျော်ရွှင်ချမ်းမြေ့သော၊ အဓိပ္ပာယ်ပြည့်ဝသော ဘဝကို ရယူထားနိုင်သူ များစွာရှိကြပါသည်။ တချို့ ယူဆပုံမှာလည်း တစ်မျိုးဖြစ်ပါသည်။ လူသားသည် သဘာဝအားဖြင့် အားနည်းသည့်အတွက် မိမိကိုယ်ကို စောင့်ရှောက်ရန် အင်အားပြည့်ပြည့်ဝဝ မရှိသည့်အားလျော်စွာ လိုအပ်သော အင်အားရဖို့ တန်ခိုးရှင်ဘုရားအပေါ် ယုံကြည်မှုရှိရန် လိုအပ်ပါသည်ဟု ဆို

ကြပြန်ပါသည်။ ဤနေရာတွင်လည်း လက်တွေ့ အထောက်အထားများအရ ဤသဘောမှာ မမှန်ကန်ကြောင်း တွေ့ရပြန်ပါသည်။ များစွာသော လူများတွင် မကြုံစဖူး ထူးခြားသော ဖြစ်ရပ်များ ဖြစ်လာသည်ကို တွေ့ရပါသည်။ ကိုယ်စွမ်းကိုယ်စ အားကိုးပြီး စိတ်ဓာတ်ခိုင်မာစွာ ကြိုးစားကြသဖြင့် မစွမ်းဆောင်နိုင်မှုများ၊ အားနည်းချက်များသည် ထူးထူးခြားခြား ပျောက်ပြီး စွမ်းဆောင်နိုင်မှု အရည်အသွေးများ ဖြစ်လာပါသည်။ ထိုလူများသည် ဘုရားအပေါ် ယုံကြည်ကြသူများ မဟုတ်ကြပါ။ ကယ်တင်ခြင်းခံရဖို့၊ လွတ်မြောက်ဖို့အတွက် လူသားသည် ဘုရားအပေါ် ယုံကြည်ရန်လိုအပ်သည်ဟု ယူဆကြသူများလည်းရှိပါသည်။ ဤအချက်မှာလည်း ဘာသာရေးအခြေခံသဘောတရားဖြစ်သည့် ကယ်တင်ခြင်းဟူသော သဘောကို လက်ခံယုံကြည်မှသာလျှင် ကောင်းမွန်ဟုတ်မှန်သည့် အနေအထားမျိုး ရှိပါသည်။ ဗုဒ္ဓဘာသာဝင်တို့သည် ထိုအယူအဆကိုလည်း လက်မခံကြပေ။ လူသားတိုင်းသည် မိမိ၏ အတွေ့အကြုံများပေါ်တွင် မူတည်လျက် မိမိ၏ စိတ်ကို ဖြူစင်သန့်ရှင်း မှန်မြတ်အောင် ဆောင်ရွက်နိုင်သော အစွမ်းသတ္တိ ရှိသည်။ မေတ္တာတရား၊ အကြင်နာတရားနှင့် အချင်းချင်း နားလည်မှု တရားများကိုလည်း လူတိုင်းပွားများနိုင်သည်ဟု လက်ခံပါသည်။ ဗုဒ္ဓဘာသာဝင်တို့သည် သူတို့၏ အာရုံကို ကောင်းကင်ဘုံ ဆီမှသည် သူ၏ နှလုံးသားသို့သာ ပို့ဆောင်ထားပါသည်။ ကိုယ်တိုင်ကြုံတွေ့နေရသော ပြဿနာအခက်အခဲများကို ကိုယ့်ကိုယ်ကိုယ် နားလည်အောင် ပြုလုပ်ခြင်းဖြင့်သာ ကိုင်တွယ်ဖြေရှင်းဖို့ တိုက်တွန်းအားပေးခဲ့ပါသည်။





**မေး။ ဖန်ဆင်းရှင်ဘုရားသာ မရှိခဲ့လျှင် စကြဝဠာကြီးသည် ဘယ်လိုဖြစ်လာပါမလဲ။**

ဖြေ။ ဤပြဿနာနှင့်ပတ်သက်၍ ဘာသာတိုင်းတွင် ရှေးအစဉ်အဆက် လက်ခံထားသော စကြဝဠာဖြစ်ပေါ်လာမှုနှင့် ပတ်သက်သောပုံပြင်များ၊ ဖြေရှင်းချက်များ ရှိကြပါသည်။ ရှေးရှေးအခါ သဘာဝတရားများကို သိပ္ပံနည်းကျ နားမလည်သေးသောကာလကမူ ထိုဖြေရှင်းချက်များ၊ ပုံပြင်များမှာ လက်ခံရန် လုံလောက်ခဲ့ကြပါသည်။ သို့သော် ရူပဗေဒ၊ နက္ခတ္တဗေဒ၊ ဘူမိဗေဒ စသောသိပ္ပံပညာရပ်များ ထွန်းကားတိုးတက်လာသည့် နှစ်ဆယ်ရာစုခေတ်တွင်မူ ရှေးရိုးအစဉ်အလာပုံပြင်ပါ အကြောင်းအရာများကို လက်တွေ့၊ မျက်တွေ့ အချက်အလက်များက လွှမ်းမိုးကျော်လွှန်သွားပြီ ဖြစ်ပါသည်။ သိပ္ပံပညာက စကြဝဠာ၏ ဖြစ်ပေါ်ပုံကို ဘုရားဟူသော ဖန်တီးပေးသူမပါဘဲ ရှင်းပြနေပြီဖြစ်ပါသည်။

**မေး။ စကြဝဠာ၏ အစနှင့် ပတ်သက်၍ ဗုဒ္ဓက ဘာများပြောခဲ့ပါသလဲ။**

ဖြေ။ စကြဝဠာ၏အစနှင့် ပတ်သက်၍ ဗုဒ္ဓ၏ ပြောဆိုချက်များသည် ယနေ့ ခေတ်မီသိပ္ပံပညာက ရှင်းပြသည့် သဘော

များနှင့် များစွာတူညီနေသည်မှာ လွန်စွာမှပင် အံ့သြဖို့၊ စိတ်ဝင်စားဖို့ကောင်းလှပါသည်။ အလှူသူတွက် ဒေသနာတော်တွင် ကြေဝဠာကြီးသည် ပျက်စီးသွားပြီးနောက် မျက်မှောက်ခေတ် အနေအထားမျိုးအထိ တဖြည်းဖြည်း ပြောင်းလဲလာပုံကို ရှင်းပြပါသည်။ ထိုကဲ့သို့ဖြစ်လာဖို့ နှစ်ပေါင်း သန်းပေါင်း မရေမတွက်နိုင်အောင် ကြာညောင်းပါသည်။ သက်ရှိသတ္တဝါတို့သည် ဦးစွာပထမ ရေမျက်နှာပြင်တွင် စတင်ဖြစ်ပေါ်ပြီး နှစ်ပေါင်း သန်းပေါင်း မရေမတွက်နိုင်အောင် ကြာသောအခါ ဖွံ့စည်းတည်ဆောက်ပုံ ရိုးရိုးစင်းစင်း အနေအထားမှ ပို၍ပို၍ ရှုပ်ထွေးသော သက်ရှိဖွဲ့စည်းတည်ဆောက်မှုများ ဖြစ်ပေါ်လာပါသည်။ ဤကဲ့သို့သောဖြစ်စဉ်မှာ အဆုံးအစမရှိပါ။ သဘာဝတရားအတိုင်း အမြဲပြောင်းလဲ ဖြစ်ပေါ်နေခြင်းသာဖြစ်သည်ဟု ဗုဒ္ဓက ရှင်းပြခဲ့ပါသည်။

**မေး။ ဖန်ဆင်းရှင်ဘုရားရှိကြောင်း အထောက်အထား မရှိဟုဆိုခဲ့လျှင် ထူးထူးဆန်းဆန်း အဖြစ်အပျက်များနှင့် ပတ်သက်၍ မည်သို့သဘောထားပါသလဲ။**

ဖြေ။ ထူးဆန်းသော အဖြစ်အပျက်များသည် ဖန်ဆင်းရှင်ဘုရားရှိကြောင်း သက်သေအထောက်အထား ဖြစ်သည်ဟု ယုံကြည်လက်ခံသူ များစွာရှိပါသည်။ ထူးဆန်းသောရောဂါများ ပျောက်ကင်းမှုများနှင့် ပတ်သက်၍ အုတ်အော်သောင်းတင်း ပြောဆိုတတ်ကြသော်လည်း သက်ဆိုင်ရာဆရာဝန်များထံမှ





ယင်းကိစ္စနှင့် ပတ်သက်၍ မှန်ကန်ကြောင်း သီးခြားသက်သေခံ အထောက်အထားမျိုးကို မရပါ။ ကျရောက်လာသော ဘေးဒုက္ခမှ တစ်စုံတစ်ယောက်အား အံ့သြစွာ ကယ်တင်လွတ်မြောက်သွားသည်ဟူသော သတင်းမျိုးကို တစ်ဆင့်ကြားအနေဖြင့်သာ ကြားဖူးပါသည်။ မျက်မြင်ကိုယ်တွေ့ တွေ့ရပြီး မည်သို့ဖြစ်ခဲ့သည်ကို သက်သေခံနိုင်သော ကိုယ်တွေ့သမားများမရှိပါ။ ဆုတောင်းလိုက်သဖြင့် ရောဂါများပျောက်ကင်းသွားသည်၊ သေနေသောခြေတို့ ပြန်လည်သန်မာလာသည် စသည့် အံ့သြစရာသတင်းများကို မကြာခဏ ကြားရတတ်ပါသည်။ သို့သော် ယင်းကိစ္စများနှင့် ပတ်သက်၍ သက်သေအထောက်အထားဖြင့် ဓာတ်မှန်ရိုက်ထားသောပုံများ၊ ဆရာဝန်များ၊ သူနာပြုများထံမှ မှန်ကန်ကြောင်း အထောက်အထားများကိုမူ မတွေ့ရဖူးပါ။ အုတ်အော်သောင်းတင်း ကျော်ကြားမှု၊ တစ်ဆင့်စကားကြားရမှု၊ ကောလာဟလ သတင်းရမှုတို့သည် တိတိကျကျ အထည်ခြပ်နှင့်ရှိသော လက်တွေ့မျက်တွေ့ အထောက်အထားကိုမူ အစားထိုး၍ မရနိုင်ပါ။ လက်တွေ့မျက်မြင်ဖြစ်သော အထူးအဆန်းများမှာ ရှာမှရှားပါးလှပါသည်။ သို့သော် မမျှော်လင့်သောကိစ္စ၊ မမျှော်လင့်သော အကြောင်းတို့ ဖြစ်တတ်ပါသည်။ ထိုဖြစ်ပေါ်မှုကို လူသားတို့အသိဉာဏ်ဖြင့် မဖြေရှင်းနိုင်ခြင်းသည် ဖန်ဆင်းရှင်ဘုရားရှိသည် ဟူသောအချက်ကို သက်သေပြသော အထောက်အထားဟူ၍ မယူဆနိုင်ပါ။ ယင်းအချက်က လူသားတို့၏ အသိနယ်ပယ်သည် ကျဉ်းမြောင်းပြီး မပြည့်စုံ

သေးသည်ကိုသာ ထောက်ပြနေပါသည်။ ခေတ်မီ ဆေးပညာများ မပေါ်ပေါက်မီကာလက လူများရောဂါရရှိသည်ကို ဖန်ဆင်းရှင်ဘုရားက လူသားများအပေါ်ပေးသော အပြစ်တစ်မျိုးဟု ယူဆလက်ခံခဲ့ကြပါသည်။ မျက်မှောက်ကာလတွင် ဘာကြောင့် ရောဂါများရသည်ကို သိရှိကြပြီဖြစ်၍ ရောဂါပျောက်စေသော ဆေးဝါးကို မှီဝဲလာတတ်ပြီဖြစ်ပါသည်။ ကမ္ဘာလောကကြီးနှင့် ပတ်သက်သော လူသားတို့ သိရှိနားလည်မှုသည် ပိုမိုပြည့်စုံလာသည့်တစ်နေ့တွင် ထူးထူးဆန်းဆန်းဖြစ်သည်ဟု ယနေ့ ယူဆနေသောကိစ္စများ ဖြစ်ရခြင်း၏ အကြောင်းရင်းများကို ဖြေရှင်းနိုင်လာကြမည် ဖြစ်ပါသည်။ ရှေးရှေးက ဖန်ဆင်းရှင်ဘုရား အပြစ်ပေးသည်၊ နတ်ဖမ်းစားသည်ဟု ယူဆသော ရောဂါ၏ ရင်းမြစ်အကြောင်းရင်းကို ယနေ့သိရှိနားလည်လာသကဲ့သို့ပင်ဖြစ်ပါသည်။

**မေး။ လူပေါင်းများစွာတို့သည် ပုံစံတစ်မျိုးမျိုးဖြင့် ဖန်ဆင်းရှင်ဘုရားရှိကြောင်း ယုံကြည်လက်ခံကြသဖြင့် ထိုယုံကြည်ချက်သည် မှန်ကန်သည်ဟု မဆိုနိုင်ဘူးလား။**

ဖြေ။ ထိုကဲ့သို့ ယူဆ၍မရနိုင်ပါ။ ကမ္ဘာကြီးသည် ပြားသည်ဟု လူတိုင်းလက်ခံယုံကြည်ခဲ့သောကာလ ရှိခဲ့ပါသည်။ သို့သော်လည်း ထိုအယူအဆကို လက်ခံခဲ့သူအားလုံး မှားကြပါသည်။ အယူအဆတစ်ခု၏အမှား၊ အမှန်ကို ထိုအယူအဆကို လက်ခံယုံကြည်သူ အရေအတွက် အနည်းအများပေါ်တွင် မူတည်၍





မသတ်မှတ်နိုင်ပေ။ အယူအဆတစ်ခု မှန်သည်၊ မှားသည်ကို ဆုံးဖြတ်ရာတွင် လက်တွေ့ မျက်တွေ့ သက်သေ အထောက်အထားများပေါ်တွင်သာလျှင် မူတည်ရပါသည်။

**မေး။ ဗုဒ္ဓဘာသာဝင်တို့သည် ဖန်ဆင်းရှင်ဘုရား ရှိသည်ကို မယုံကြည်လျှင် ဘာကိုယုံကြည်လက်ခံပါသလဲ။**

ဖြေ။ ဗုဒ္ဓဘာသာဝင်တို့သည် ဖန်ဆင်းရှင်ဘုရား၌ သက်ဝင်ယုံကြည်မှု မရှိပါ။ ကျွန်ုပ်တို့သည် လူသား၏ စွမ်းပကားနှင့် လုပ်ဆောင်မှုတွင် သက်ဝင်ယုံကြည်ကြပါသည်။ လူသားတိုင်းသည် တန်ဖိုးရှိပြီး အရေးကြီးသည်။ အရေးပါသည်။ လူတိုင်းတွင် ဗုဒ္ဓဖြစ်နိုင်ဖို့ အလားအလာ အစွမ်းများရှိသည်ဟု ယုံကြည်လက်ခံပါသည်။ အကြွင်းမဲ့သိရှိပြည့်စုံသောလူ ဖြစ်လာသောအခါ လူသားသည် အဝိဇ္ဇာအမှောင်နှင့် ကျိုးကြောင်းမဲ့မှုများကို ရှောင်ရှားပယ်သတ်နိုင်ပြီး အရာရာကို ပင်ကိုအရှိအတိုင်း သဘာဝကျကျ သိမြင်လက်ခံနိုင်လာပေသည်။ အမုန်း၊ ဒေါသ၊ ဝန်တိုမှု၊ မကောင်းသော စိတ်ညှိုးစိတ်ယုတ်တို့အား မေတ္တာတရား၊ သည်းခံခွင့်လွှတ်ခြင်း၊ ပေးကမ်းစွန့်ကြဲခြင်း၊ ကြင်နာသနားခြင်း စသော ကောင်းမြတ်သော စိတ်ထားများနှင့် အစားထိုးနိုင်သည်ဟုလည်း လက်ခံယုံကြည်ပါသည်။ လူတိုင်းသည် ကိုယ်တိုင် ကြိုးစားအားထုတ်ခဲ့လျှင်၊ ဗုဒ္ဓလမ်းစဉ်ကို လက်ခံသော ဗုဒ္ဓဘာသာဝင် အချင်းချင်း သတိပေး၊ လမ်းညွှန်၊ ပံ့ပိုးခဲ့လျှင်၊ ဗုဒ္ဓ၏ စံနမူနာကို အားကျလက်ခံခဲ့လျှင် မကောင်းစိတ်

များနေရာတွင် ကောင်းစိတ်များ အစားထိုးရေးလုပ်ငန်းမှာ လူတိုင်း ရှယ်ဆောင်နိုင်သော အတိုင်းအတာအတွင်းမှာ ရှိပါသည်။ ဗုဒ္ဓက ကိုယ့်အားကိုယ်ကိုးရန် အောက်ပါအတိုင်း မိန့်ကြားခဲ့ပါသည်။

ကျွန်ုပ်တို့ကို ဘယ်သူကမှ မကယ်ပါ။ ကိုယ်တိုင်သာလျှင် ကယ်နိုင်ပါသည်။

မည်သူမျှ ကယ်တင်နိုင်မည် မဟုတ်ပါ။ ကယ်တင်လိမ့်မည်လည်း မဟုတ်ပါ။

ကျွန်ုပ်တို့ကိုယ်တိုင် လမ်းမှန်ကို လျှောက်လှမ်းရပါမည်။

ဗုဒ္ဓကမူ လျှောက်ရမည့်လမ်းကိုသာလျှင် ရှင်းရှင်းလင်းလင်း ညွှန်ပြခဲ့ပါသည်။

○



# ငါးပါးသီလ

မေး။ အခြားသောဘာသာဝင်တွေမှာ အမှား၊ အမှန် အယူအဆများကို လက်ခံကိုးကွယ်သော ဘုရား၊ သို့မဟုတ် ဘုရားတို့၏ ပညတ်တော်များမှ ကောက်နုတ်ယူကြပါသည်။ ဗုဒ္ဓဘာသာဝင်များမှာ ဖန်ဆင်းရှင်ဘုရားကို မယုံကြည်ကြသဖြင့် အမှား၊ အမှန်ကို မည်သို့ သတ်မှတ်ယူပါသလဲ။

ဖြေ။ လောဘ၊ ဒေါသ၊ မောဟတရားတို့တွင် အခြေခံသော အတွေးအကြံ၊ အပြော၊ အလုပ်တို့သည် နိဗ္ဗာန်နှင့်ဝေးရာသို့ခေါ်ဆောင်တတ်သဖြင့် မကောင်းမှုများပင် ဖြစ်ပါသည်။ ပေးကမ်းစွန့်ကြဲခြင်း၊ မေတ္တာထားခြင်း၊ ပညာဉာဏ်နှင့် ယှဉ်ခြင်းတို့ပေါ်တွင် အခြေပြုသော အတွေး၊ အကြံ၊ အပြော၊ အလုပ်တို့သည် နိဗ္ဗာန်နှင့် ပို၍ပို၍ နီးရာသို့ ရှေးရှု ခေါ်ဆောင်တတ်သဖြင့် ကောင်းမှုများဟု သတ်မှတ်ပါသည်။ ဖန်ဆင်းရှင်ဘုရား ဗဟိုပြုသော ဘာသာများတွင် အမှား၊ အမှန် ခွဲခြားသိဖို့ အရေးမှာ

ပြောသည့်အတိုင်း လိုက်လုပ်ရုံသာလျှင် လိုပါသည်။ သို့သော် ဗုဒ္ဓဘာသာကဲ့သို့ လူသားဗဟိုပြုသော ဘာသာတွင် အမှား၊ အမှန် ခွဲခြားဝေဖန်နိုင်ဖို့အတွက် မိမိ၏ စိတ်နေသဘောထားကို လေးလေးနက်နက် သတိပြုနားလည်ဖို့လိုအပ်ပါသည်။ အမိန့် အာဏာတစ်ခုခုကြောင့် လိုက်လုပ်ရသော အကျင့်သိက္ခာ ထိန်းမှုထက် နားလည်လက်ခံမှုပေါ်တွင်မူတည်၍ လိုက်လုပ်ရသော အကျင့်သိက္ခာထိန်းမှုသည် ပိုမိုအင်အားပြည့်ဝပါသည်။ အဓိပ္ပာယ် ပိုမိုလေးနက်ပါသည်။

အမှားအမှန်ကို ခွဲခြားသိဖို့အတွက် ဗုဒ္ဓဘာသာဝင်တို့သည် အချက်သုံးချက်ကို ဆင်ခြင်ကြည့်ရှုပါသည်။ ထို အချက်သုံးချက်မှာ ရည်ရွယ်ချက်၊ ပြုလုပ်သူအပေါ်၌ ဖြစ်ပေါ်စေမည့် အကျိုးနှင့် အခြားသူများအပေါ်တွင် ဖြစ်ပေါ်လာမည့် အကျိုးများကို ကြည့်ရှုဆင်ခြင်ခြင်းများ ဖြစ်ပါသည်။ ပေးကမ်းစွန့်ကြဲခြင်း၊ မေတ္တာထားခြင်း၊ ပညာနှင့် ယှဉ်ခြင်းတည်းဟူသော ကောင်းသောရည်ရွယ်ချက်လည်း ရှိမည်၊ မိမိအတွက်လည်း အထောက်အကူပြုမည် (ပို၍ ပေးကမ်းစွန့်ကြဲလိုသော သဒ္ဓါတရား အားကောင်းလာစေမည်။ မေတ္တာတရား ပိုမိုပွားများစေနိုင်မည်။ ပညာဖြင့် ဆင်ခြင်မှု ပိုမိုဖြစ်စေမည်)၊ အခြားသူများအားလည်း အထောက်အကူပြုမည် (အများအား ပို၍ပေးကမ်းလိုသော သဒ္ဓါတရား၊ မေတ္တာတရားနှင့် ပညာဉာဏ် တိုးပွားခြင်းများမည်) ဆိုပါက ထိုအပြုအမူများ၊ လုပ်ရပ်များသည် ကောင်းမွန်မြင့်မြတ်သော လုပ်ရပ်များ ဖြစ်ပါသည်။ ကောင်းမှု



အလုပ်မှာပင် ကောင်းမှု ပမာဏ အဆင့်အမျိုးမျိုး ရှိနိုင်ပါသည်။ တစ်ခါတစ်ရံတွင် ကောင်းသောရည်ရွယ်ချက်ဖြင့် လုပ်သည် မှန်သော်လည်း မိမိအတွက် လည်းကောင်း၊ အများအတွက် လည်းကောင်း ကောင်းကျိုး မဖြစ်တတ်သည်လည်း ရှိတတ်ပါသည်။ တစ်ခါတစ်ရံတွင် ကောင်းသော ရည်ရွယ်ချက်ဖြင့် ဆောင်ရွက်ခြင်း မဟုတ်သော်လည်း အခြားလူများအတွက် အကျိုးများသောအလုပ် ဖြစ်နေတတ်သည်များလည်း ရှိပါသည်။ ရည်ရွယ်ချက်အကောင်းဖြင့် ပြုလုပ်သောအလုပ်သည် မိမိအတွက် ကောင်းမြတ်သောအကျိုးကို ဖြစ်သော်လည်း အများအတွက် အနှောင့်အယှက်ဖြစ်နေတတ်သည်များလည်း ရှိတတ်ပါသည်။ဤကဲ့သို့သော လုပ်ရပ်တို့သည် ကောင်းကျိုးနှင့်ဆိုးပြစ်များ ယှဉ်တွဲနေသောအမှုကိစ္စများ ဖြစ်နေပါသည်။

ရည်ရွယ်ချက်မှာ မကောင်း၊ စိတ်ယုတ် စိတ်ညံ့ပေါ်တွင် အခြေတည်ထားသော ရည်ရွယ်ချက်သည် မိမိအားလည်းကောင်း၊ အခြားလူများအားလည်းကောင်း အကျိုးမပြုသည့်အတွက် မကောင်းသောလုပ်ရပ်၊ မကောင်းမှုများသာ ဖြစ်ပါသည်။ ရည်ရွယ်ချက် လည်းကောင်းပြီး မိမိအတွက်လည်းကောင်း၊ အများအတွက်လည်းကောင်း ကောင်းသောအကျိုးကိုဖြစ်စေလျှင် ထိုအပြုအမူသည် လုံးဝကောင်းသောအမှု၊ ကုသိုလ်ကောင်းမှုပင် ဖြစ်ပေသည်။

**မေး။ ဤသို့ဆိုလျှင် ဗုဒ္ဓဘာသာမှာ ကိုယ်ကျင့်စည်းကမ်း သတ်မှတ်ချက်များ ရှိသည်ဟု ဆိုလိုပါသလား။**

ဖြေ။ မှန်ပါသည်။ ရှိပါသည်။ ငါးပါးသီလသည် ဗုဒ္ဓဘာသာဝင်များအတွက် ခါးဝတ်ပုဆိုးကဲ့သို့ မြဲမြံနေရမည့် အခြေခံကျသော ကိုယ်ကျင့်စည်းကမ်း သတ်မှတ်ချက်များပင် ဖြစ်ပါသည်။ ပထမသီလမှာ သက်ရှိသတ္တဝါများ၏အသက်ကို သတ်ဖြတ်၊ ညှဉ်းဆဲခြင်းမှ ရှောင်ရှားသောအကျင့်ကို စောင့်ထိန်းခြင်း ဖြစ်ပါသည်။ ဒုတိယအကျင့်သီလမှာ သူတစ်ပါး၏ ပစ္စည်းကို မတရားရယူခြင်းမှ ရှောင်သော အကျင့်သိက္ခာပုဒ် ဖြစ်ပါသည်။ တတိယအကျင့်သီလမှာ ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်ခြင်းမှ ရှောင်ကြဉ်သောအကျင့်သိက္ခာပုဒ် ဖြစ်ပါသည်။ စတုတ္ထအကျင့်သီလမှာ မမှန်သောစကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်သော အကျင့်သိက္ခာပုဒ် ဖြစ်ပါသည်။ ပဉ္စမ အကျင့်သီလမှာ မူးယစ် မေ့လျော့စေတတ်သော အရက်သေစာတို့ကို သောက်စားခြင်းမှ ရှောင်ကြဉ်သော အကျင့်သိက္ခာပုဒ် ဖြစ်ပါသည်။

**မေး။ သို့သော် တစ်ခါတစ်ရံတွင် အခြေအနေအရ သတ်ဖြတ်ခြင်းသည်ကောင်းပါသည်။ ရောဂါပြန့်ပွားစေသော ပိုးကောင်များကို လည်းကောင်း၊ မိမိကို သတ်ရန်လာသူအား လည်းကောင်း မသတ်သင့်ဘူးလား။**

ဖြေ။ သတ်သူအတွက်မှ ကောင်းချင်ကောင်းနိုင်သည်ဟု ဆိုနိုင်ပါသည်။ သို့သော် အသတ်ခံရမည့်သတ္တဝါ၊ လူအတွက်





မည်သို့နေပါမည်နည်း။ သူတို့သည်လည်း သင်ကဲ့သို့ပင် အသက်ရှင်နေခြင်းကို လိုလားနှစ်သက်ကြပါသည်။ ရောဂါပြန့်ပွားစေသော ပိုးမွှားများကို သတ်ဖြတ်ရန် ကြံစည်ခြင်းတွင် ကောင်းကျိုး (မိမိကိုယ်ကို ကာကွယ်ခြင်း)နှင့် ဆိုးပြစ် (အသတ်ခံရသော သတ္တဝါအတွက် နာကျင်သေဆုံးခြင်း)တို့ ယှဉ်တွဲနေပါသည်။ အခြေအနေအရ သတ်ဖြတ်မှုသည် လိုကောင်းလိုနိုင်ပါသည်။ သို့သော် ထိုသတ်ဖြတ်ခြင်းမှာ နှစ်ဦးနှစ်ဖက် လုံးဝကောင်းသောအလုပ်တော့ မဟုတ်ပါ။

**မေး။ ဗုဒ္ဓဘာသာဝင်တို့သည် ပုရွက်ဆိတ်၊ ကြမ်းပိုးစသည့် သတ္တဝါများနှင့် ပတ်သက်၍ မင့်လွန်းဘူးလား။**

ဖြေ။ ဗုဒ္ဓဘာသာဝင်တို့သည် အားလုံးသော သတ္တဝါများ အပေါ်တွင် ခွဲခြားခြင်း မရှိသော၊ အားလုံးအပေါ် အေးမြသော မေတ္တာစိတ်ကို ပွားများကြပါသည်။ ကမ္ဘာလောကကြီးကိုလည်း အားလုံး သူ့နေရာနှင့်သူ တာဝန်အသီးသီးရှိသည့် စုပေါင်း အဖွဲ့အစည်းကြီးတစ်ခုအဖြစ် ရှုမြင်ပါသည်။ သဘာဝ၏ အလွန်သိမ်မွေ့လှစွာသော ညီညွတ်မျှတ သဟဇာတ ဖြစ်မှုသဘောကို ပြောင်းလဲခြင်း၊ ဖျက်ဆီးခြင်းများ ပြုလုပ်တော့မည်ဆိုလျှင် သေသေချာချာ စဉ်းစဉ်းစားစား လုပ်သင့်သည်ဟုလည်း ယူဆကြပါသည်။ သဘာဝကို အစွမ်းကုန်အသုံးချနေကြသော လူယဉ်ကျေးမှုထွန်းကားရာ နယ်မြေဒေသများကို နမူနာထား၍ ကြည့်ပါ။ သဘာဝမှ ရသမျှ ဖျစ်ညှစ်ထုတ်ယူခြင်း

သာ ပြုကြပါသည်။ သဘာဝ ပုံမှန်အနေအထားရှိနေဖို့အတွက် ဘာမှပြန်လုပ် အကျိုးပြုထည့်သွင်းခြင်း မရှိခဲ့ကြပါ။ သဘာဝ ကို အနိုင်ယူခြင်းနှင့် သဘာဝမှ ထုတ်နုတ်ယူခြင်းသာလျှင် ပြုတတ်ကြပါသည်။ ထို့ကြောင့် သဘာဝကြီးသည် ဖောက်လှဲ ဖောက်ပြန်မှုများ ဖြစ်လာပါသည်။ လေထုသည် ညစ်ညမ်း၍ အဆိပ်သင့် နေပါသည်။ မြစ်၊ ချောင်း၊ အင်းအိုင်တို့သည်လည်း အညစ်အကြေးများ ထူနေပြီး မြစ်သော၊ ချောင်းသေများ ဖြစ် နေကြပါသည်။ လှပသော သတ္တဝါများလည်း မျိုးတုံးကုန်ကြ ပါသည်။ တောင်ကုန်းများလည်း တောင်ကတုံးများဖြစ်ပြီး ရေ တိုက်စားမှုကို များစွာခံကြရပါသည်။ ရာသီဥတုသည်ပင်လျှင် ပြောင်းလဲနေပြီ ဖြစ်ပါသည်။ လူသားတို့သာလျှင် အနည်းငယ် အသိတရားရှိပြီး ဖျက်ဆီးခြင်း၊ သတ်ဖြတ်ခြင်း၊ မြှုခွဲခြင်းများ ကို မပြုလုပ်ပါက မျက်မှောက်ရင်ဆိုင်နေရသော ကြောက်မက် ဖွယ်ရာ အခြေအနေဆိုးကြီးမှာ ပေါ်ပေါက်လာမည် မဟုတ်ပါ။ လူသားတို့သည် မိမိတို့ဘဝအတွက် ပို၍အလေးအနက်တန်ဖိုး ထားရန် ကြိုးစားဖို့လိုလာပါသည်။ ဤအချက်မှာ ဗုဒ္ဓဘာသာ ဝင်တို့လိုက်နာသော ငါးပါးသီလအနက် ပထမဆုံး သီလက ညွှန်ပြချက်ဖြစ်ပါသည်။

**မေး။ လိမ်ညာပြောဆိုခြင်းအပေါ် ဘယ်လိုယူဆပါသလဲ။ မလိမ်မညာဘဲ နေရန်ဖြစ်နိုင်ပါသလား။**

ဖြေ။ လက်ရှိ လူ့အသိုင်းအဝိုင်း လုပ်ငန်းနယ်ပယ်နှင့် လူမှု





ဘဝတွင် လိမ်ညာမှုမပါဘဲနေထိုင်ရန် လုံးဝမဖြစ်နိုင်ဟု ဆိုလျှင် ထိုကဲ့သို့ ကြောက်စရာ ဖောက်ပြန်နေသော အနေအထားနှင့် အခြေအနေကို ပြုပြင်ပြောင်းလဲယူရမည် ဖြစ်ပါသည်။ ဗုဒ္ဓ ဘာ သာဝင်တစ်ဦးသည် လက်တွေ့ကျသောအလုပ်၊ မှန်ကန်သော အလုပ်၊ ရိုးသားဖြောင့်မတ်သောအလုပ်များကို လုပ်ရန် သီလ ဆောက်တည်ထားသူများ ဖြစ်ပါသည်။

**မေး။ အရက်သောက်ခြင်းနှင့်ပတ်သက်၍ မည်သို့မြင် ပါသလဲ။ စားကောင်းအောင် အနည်းငယ်သောက်ခြင်း သည် မထိခိုက်ဟု ယူဆပါသည်။ မည်ကဲ့သို့ ထင်မြင်ပါ သလဲ။**

ဖြေ။ လူတို့သည် အရက်၏အရသာကို ကြိုက်၍ အရက် သောက်နေကြခြင်းမဟုတ်ပါ။ တစ်ဦးတည်းအဖော်မပါ အရက် သောက်နေလျှင် မိမိစိတ်ထဲတွင် တင်းကျပ်နေမှု တစ်ခုခု လျော့ နည်းစေရန် သောက်ခြင်းဖြစ်ပါသည်။အပေါင်းအဖော်နှင့်အတူ သောက်ခြင်းမှာမူ အများနည်းတူ အများနှင့်ဝင်ဆံ့အောင် သောက်ခြင်းမျိုး ဖြစ်နိုင်ပါသည်။ အရက်သေစာကို နည်းနည်း ပါးပါးသောက်ခြင်းသည်ပင်လျှင် အသိတရား၊ သတိတရား များကို ပုံမှန်အနေအထားမှ ဖျက်ယွင်းစေပါသည်။ မိမိ ကိုယ် ကိုစောင့်သိနားလည်မှု အဆင့်တွင်လည်း ထိခိုက်စေပါသည်။ များများသာသောက်စားခဲ့ပါလျှင် အလွန်အကျွံ အကျိုးယုတ်မှု များ ဖြစ်နိုင်ပါသည်။

**မေး။ သို့သော်လည်း နည်းနည်းပါးပါး သောက်ခြင်းဖြင့် သူ့ရာမရှိယကာ ကျိုးပေါက်သည်ဟု ပြောနိုင်ပါ့မလား။ တကယ် နည်းနည်းလေးသာသောက်ခြင်း ဖြစ်ပါသည်။**

ဖြေ။ မှန်ပါသည်။ သောက်မည့်ပမာဏသည် သိပ်နည်းပါသည်။ သို့သော် အနည်းငယ်မျှကလေးကိုပင် ရှောင်ရန် မိမိကိုယ်ကို စောင့်ထိန်းနိုင်မှုသတ္တိ မရှိခဲ့ပါလျှင် ဤသီလကို စောင့်ထိန်းဖို့ သင်၏ စိတ်ရောကိုယ်ပါ ပါဝင်မှုနှင့် ဆုံးဖြတ်ချက်မှာ အားမကောင်းဟု ဆိုရမည်မဟုတ်ပါလား။

**မေး။ ငါးပါးသီလသည် ရှောင်ရန်တရားများသာ ဖြစ်ပါသည်။ ဘာမလုပ်ရန်၊ ဘာကိုရှောင်ရှားရန် သာ ညွှန်ပြပါသည်။ ဘာကိုလုပ်ရမည်၊ ဆောင်ရမည်ကို ဖော်ပြမထားပါ။ ဤအတိုင်း မှန်ပါသလား။**

ဖြေ။ ငါးပါးသီလသည် ဗုဒ္ဓယဉ်ကျေးမှု၊ ဗုဒ္ဓအလိုအရ စာရိတ္တ အလေ့အကျင့်တွင် အခြေခံပါသည်။ ကျွန်ုပ်တို့အနေဖြင့် ကိုယ်တိုင် မကောင်းသော အပြုအမူ၊ မဖွယ်ရာသော အပြုအမူကို သတိပြု အာရုံညွှတ်လာခဲ့သည်။ သိတတ်သည်မှစ၍ မကောင်းသောအမှုတွင်သာလျှင် မွေ့လျော်သောအကျင့်ကို ပယ်ဖျောက်ပေးရပါမည်။ မကောင်းသောအမှုကို ပြုလုပ်ပြီးသည်၏ နောက်ပိုင်းမှသာလျှင် ကောင်းသောအမှုကို ပြုလုပ်မိတတ်ကြပါသည်။ 'မကောင်းမှုများ ဖယ်ရှောင်ရှား' ခြင်းမှ စရမည်ဟု ဗုဒ္ဓက ညွှန်ပြခဲ့ပါသည်။ ကျွန်ုပ်တို့အနေဖြင့် အမှန်ကိုသာလျှင် ပြော





သင့်ပါသည်။ ညင်ညင်သာသာ အမှန်ကို ပြောသင့်ပါသည်။ ယဉ်ယဉ်ကျေးကျေးလည်း ပြောသင့်ပါသည်။ ပြောသင့်သော အချိန်တွင်သာ ပြောရပါမည်။ ဤအချက်နှင့် ပတ်သက်၍ ဗုဒ္ဓက အောက်ပါအတိုင်း မိန့်မှာခဲ့ပါသည်။

မမှန်သည်ကို ပြောဆိုခြင်းမှ ရှောင်ရှားသူသည် အမှန်ကို ပြောသူ၊ ကိုးစားအားထားထိုက်သူ၊ ယုံကြည်လေးစားထိုက်သူ၊ မှီခိုအားထားနိုင်သူ ဖြစ်လာပြီး ထိုသူသည် လောကကြီးကို လှည့်စားလိမ်လည်တော့မည် မဟုတ်တော့ပါ။ မကောင်းစိတ်ကို အခြေခံသောစကားကို မပြောဆိုသဖြင့် တစ်နေရာတွင် ကြားခဲ့ရသော စကားကို အခြားတစ်နေရာတွင် မမှန်မကန် လွဲမှားစွာ ထုတ်ဖော်ပြောဆိုခြင်းဖြင့် လူအချင်းချင်း အမြင်ကွဲပြား လွဲမှားစေမှုမျိုးကိုလည်း ပြုလုပ်တော့မည်မဟုတ်ပါ။

သဘောထားကွဲလွဲနေသူများကိုလည်း ရင်ကြားစေ့အောင် ပြုလုပ်ပေးသည့်အပြင် ရင်းနှီးပြီး မိတ်ဆွေများကိုလည်း ပို၍ ရင်းနှီးစေပါသည်။ ညီညွတ်ပြီး သဟဇာတဖြစ်မှုသည် ဗုဒ္ဓဘာသာဝင်တစ်ဦးအဖို့ ချစ်မြတ်နိုးစရာ၊ ကြည်နူးနှစ်သက်စရာ၊ ပျော်ရွှင်စရာဖြစ်ပါသည်။ ညီညွတ်မှုတစေလိုသော စိတ်ဆန္ဒသည် ဗုဒ္ဓဘာသာဝင်တစ်ဦး၏ ပြောဆိုလုပ်ကိုင်မှု နောက်ကွယ်မှ တွန်းအားပင်ဖြစ်ပါသည်။ မှုသားကင်းပြီး ကြမ်းတမ်းသောစကားကို စွန့်လွှတ်သူတစ်ဦး၏ ပြောစကားတို့သည် အပြစ်ကင်းပါသည်။ ကြားရသူအတွက် နားဝင်ချိုပါသည်။ လက်ခံနိုင်စရာဖြစ်ပါသည်။ နှလုံးသားတွင် သိမ်းဆည်းစရာ ဖြစ်ပါ

သည်။ ညင်သာယဉ်ကျေး သိမ်မွေ့ပါသည်။ အများကနှစ်သက်ကြပါသည်။ အကျိုးမဲ့သော စကားပြောဆိုခြင်းကို စွန့်လွှတ်ပါသည်။ ပြောစရာကို ပြောဖို့သင့်သောအချိန်မှာသာ ပြောပါသည်။ မှန်သော စကားကိုသာ ဆိုပါသည်။ ထိထိရောက်ရောက်ပြောပါသည်။ ဓမ္မနှင့်ပတ်သက်၍သာ ပြောပါသည်။ ကျင့်ဝတ်စည်းကမ်းနှင့် ပတ်သက်၍ ပြောပါသည်။ ရတနာကဲ့သို့ မြတ်မြတ်နိုးနိုး သိမ်းဆည်းရမည့် စကား၊ ရာသီအခါမရွေး ကောင်းမွန်သောစကား၊ ကျိုးကြောင်းညီညွတ်ဆီလျော်သောစကား၊ ရှင်းလင်းစွာသိသော စကားတို့ကိုသာလျှင် ပြောဆိုပါသည်။

**မေး။ ဘုရား၊ သို့မဟုတ် ဘုရားအများ၏ တန်ခိုးကို မှီ၍သာလျှင် လူသားတို့သည် ကောင်းနိုင်ကြသည်ဟု အချို့က အမြင်ရှိကြပါသည်။ ထိုအမြင်နှင့် ပတ်သက်၍ မည်သို့ယူဆပါသလဲ။**

ဖြေ။ ဤအယူအဆ မမှန်ကန်သည်မှာ ရှင်းလှပါသည်။ လွတ်လပ်စွာ တွေးခေါ်စဉ်းစားကြသော ပုဂ္ဂိုလ်များ၊ ဗုဒ္ဓဘာသာဝင်များ သန်းပေါင်းများစွာ ရှိပါသည်။ ထိုလူတို့၏ အပြုအမူများသည် မြင့်မြတ်ကြပါသည်။ ကောင်းမွန်ကြပါသည်။ တစ်ချိန်တစ်ခါသာ ကောင်းပြီး တစ်ချိန်တစ်ခါတွင် ဆိုးနေခြင်းမဟုတ်ပါ။ မြင့်မြတ်သောဘုရားတွင် သက်ဝင် ယုံကြည်သူများ ကောင်းမွန်မြင့်မြတ်သည့်နည်းတူ ဗုဒ္ဓဘာသာဝင်များ၊ လွတ်လပ်စွာတွေးခေါ်သူများလည်း အမြဲကောင်းမွန် မြင့်မြတ်





ကြပါသည်။ မည်သူမဆို အစိဋ္ဌာန်ပြုလျက် စိတ်ကို ဖြူစင်မြင့်မြတ် ကောင်းမွန်အောင် ကျင့်ကြံအားထုတ်လျှင် ဖြူစင်မြင့်မြတ်သောစိတ် ရရှိလာမည်ဖြစ်ပါသည်။ လုံးဝဖြူစင် သန့်ရှင်း မြင့်မြတ်သည့်အဆင့်သို့ မရောက်သည့်တိုင် လက်ရှိအခြေအနေထက် သာလွန်ပြီး ပိုမိုမြင့်မြတ်သန့်ရှင်းသော အခြေအနေသို့ ရောက်လာမည်ဖြစ်ပါသည်။

## ပြန်လည်မွေးဖွားခြင်း (ဘဝသံသရာ)

မေး။ လူသားတို့သည် ဘယ်ကဖြစ်လာပြီး ဘယ်ကိုသွားကြရပါသလဲ။

ဖြေ။ ဤမေးခွန်းအတွက် ဖြစ်နိုင်သောအဖြေ သုံးမျိုးသုံးစား ရှိပါသည်။ ဘုရား၊ သို့မဟုတ် ဖန်ဆင်းရှင်၊ တန်ခိုးရှင်များကို ယုံကြည်ကြသူများက လူသားသည် အစကမရှိဟု ယုံကြည်သည်။ ဘုရားက ဖန်ဆင်းသဖြင့် လူသားဖြစ်လာသည်ဟု လက်ခံပါသည်။ လူသားသည် ဘုရား၏အလိုနှင့်အညီ ဖြစ်လာသည်ဟု ယူဆကြပါသည်။ ဘုရားအလိုကျ လူဖြစ်လာသည်။ လူသားအဖြစ် အသက်ရှင်ပါသည်။ ထို့နောက် လူ့ဘဝတွင်ယုံကြည်သည့်အတိုင်း၊ သို့မဟုတ် လုပ်ရပ်အတိုင်း သူသေသွားသည့်အခါ ထာဝရကောင်းကင်ဘုံသို့ လည်းကောင်း၊ ထာဝရငရဲသို့ လည်းကောင်း ရောက်ရပါသည်ဟု သက်ဝင်ယုံကြည်ကြပါသည်။ ဤအယူအဆမှာ တစ်မျိုး ဖြစ်ပါသည်။ လူသားဝါဒကို လက်ကိုင်ထားသူများနှင့် သိပ္ပံပညာရှင်များ၏ အယူအဆလည်း ရှိပါသည်။ သူတို့၏ အယူအဆအရ လူ





သားသည် သဘာဝအကြောင်းတရားကြောင့် ပဋိသန္ဓေတည်သော အချိန်မှစ၍ လူသားဟု ဖြစ်လာပါသည်။ လူသားအဖြစ် မွေးဖွားအသက်ရှင်ပြီး နောက်ဆုံးတွင် သေဆုံးပျောက်ပျက်သွားပါသည်။ ဗုဒ္ဓ ဘာသာသည် အထက်တွင် ဖော်ပြခဲ့သော အယူအဆ နှစ်ရပ်စလုံးကို လက်မခံပါ။

ပထမအယူအဆသည် လူ့ကျင့်ဝတ်ဆိုင်ရာ ပြဿနာများစွာကိုဖြစ်စေပါသည်။ ကောင်းသောဘုရားသည် လူသားများအား ဖန်ဆင်းခြင်းသာမှန်ခဲ့ပါလျှင် လူတော်တော်များများသည် ကြောက်စရာပုံပျက်ပန်းပျက် မွေးဖွားလာရခြင်းနှင့် ပတ်သက်၍ ရှင်းပြရန် ခက်ခဲလှပါသည်။ အချို့သောကလေးများမှာ မိခင်ဝမ်းတွင်းမှာပင် ပျက်စီးသွားရခြင်း၊ သို့မဟုတ် မွေးမွေးချင်း ပျက်စီးသွားရခြင်း စသည့်ဖြစ်ရပ်များကို ဖြေရှင်းရန် ခက်ခဲလှပါသည်။ နောက်တစ်ချက်မှာ လူသားအဖြစ်ဖြစ်လာပြီး အသက်ရှင်ရသည့် နှစ်ကာလ ၆၀၊ သို့မဟုတ် ၇၀ အတွင်း လုပ်ဆောင်မှုကြောင့် ထာဝရငရဲတွင် ခံရသည်ဆိုသည်မှာလည်း မမျှတသည့် သဘောရှိပါသည်။ နှစ်ပေါင်း ၆၀၊ ၇၀ မျှ မယုံကြည်ခြင်း၊ မဖြတ်သော အသက်ရှင်မှုအတွက် ထာဝရနှိပ်စက်ခံရခြင်း ဆိုသည်မှာ မဖြစ်ထိုက်သော ကိစ္စဖြစ်ပါသည်။ ထို့နည်းတူပင် နှစ် ၆၀၊ ၇၀ မျှ ကောင်းစွာသက်ရှင်နေခြင်းသည် ထာဝရကောင်းကင်ဘုံသို့ ရောက်ရှိစေသော အကြောင်းတရားဟု ယူဆခြင်းမှာလည်း ကြောင်းကျိုးမဆီလျော်ပါ။ အထက်ဖော်ပြပါ ရှင်းလင်းချက် နှစ်မျိုးအနက် ဒုတိယ ရှင်းလင်းချက်မှာ ပထမ

ရှင်းလင်းချက်ထက်ပို၍ကောင်းပါသည်။ ဒုတိယဖြေရှင်းချက်အတွက်အထောက်အကူပြုသည့် အချက်အလက်များစွာ ရှိပါသည်။ သို့သော် ဒုတိယဖြေရှင်းနည်းမှာလည်း ပြဿနာများစွာကို ဖြေရှင်းပေးနိုင်သော အနေအထားမရှိပါ။ သိမှုဆိုသည့် အံ့ဩလောက်အောင် ရှုပ်ထွေးသော အဖြစ်အပျက်တစ်ခုသည် ဆဲလ်နှစ်ခုပေါင်းစည်း ဆက်သွယ်မိရုံဖြင့် မည်ကဲ့သို့ဖြစ်ပေါ်လာရပါသနည်း။ အမျိုးသား၏ သုက်ပိုးနှင့် အမျိုးသမီး၏ မျိုးဥတို့ ပေါင်းစည်းဆက်သွယ်မိရုံဖြင့် သိမှုသည် မည်ကဲ့သို့ဖြစ်ပေါ်လာရပါသနည်း။ မျက်မှောက်ခေတ်တွင် ပရစိတ်ပညာ (**Parapsychology**) ကို သိပ္ပံ၏ အကိုင်းအခက်တစ်ခုအဖြစ် လက်ခံလာပြီ ဖြစ်ပါသည်။ တယ်လီပသီကဲ့သို့သော ဖြစ်ပျက်ကိစ္စများကို ရုပ်သဘာဝအခြေခံ စဉ်းစားမှုတွင် အံဝင်အောင် စဉ်းစားရန် ခက်ခဲပါသည်။

လူသား ဘယ်လိုဖြစ်လာ၍ ဘယ်ကိုလားမည် ဆိုသည့်ကိစ္စနှင့်ပတ်သက်၍ ဗုဒ္ဓဘာသာက ကျေနပ်စရာ အကောင်းဆုံး၊ အဖြစ်နိုင်ဆုံးသော ဖြေရှင်းချက်ကိုပေးပါသည်။ လူတို့ သေဆုံးသောအခါ စိတ်၏စွဲလမ်းမှုများ၊ အသက်ရှင်စဉ် ကာလအတွင်း မွေးမြူပျိုးထောင်ထားသော စိတ်စွမ်းအားများ၊ တမ်းတစွဲလမ်းမှုများ၊ စိတ်အရည်အသွေး လက္ခဏာများ အားလုံးစုပေါင်းလျက် မျိုးအောင်သောသန္ဓေဥတွင် ကမ္မသတ္တိတစ်မျိုး ပြန်လည်ဖြစ်တည်ပါသည်။ ဤနည်းဖြင့် လူသားတို့သည် ပြန်လည်သန္ဓေရယူခြင်းဖြစ်စဉ်သည် ဖြစ်ပေါ်လာပြီး သန္ဓေ





ပါစိတ်စွမ်းအားနှင့် သက်ရှင်နေထိုင်ရသည့် ပတ်ဝန်းကျင်၏ ပြုပြင်ရိုက်ခတ်မှုကြောင့် ဖြစ်ပေါ်လာရသော စိတ်စွမ်းအားများ ပေါင်းစပ်ဆက်သွယ်ပြီး သီးခြားကိုယ်ရည်ကိုယ်သွေး ပင်ကိုစရိုက်လက္ခဏာများ ဖြစ်ပေါ်လာရသည်။ လူသား၏ ကိုယ်ရည်ကိုယ်သွေး လက္ခဏာတို့သည် ပြောင်းလဲလိုသောစိတ်ဆန္ဒဖြင့် ကြိုးစားအားထုတ်မှု၊ ရယူသင်ကြားရသော ပညာရေး အခြေအနေ၊ မိဘများ၏လွှမ်းမိုးမှု၊ လူ့အဖွဲ့အစည်း၏ လွှမ်းမိုးမှုများကြောင့်လည်း ပြောင်းလဲနိုင်ပါသည်။ ထို ပြောင်းလဲဖြစ်ပေါ်လာသော စိတ်စွမ်းအင် ကမ္မသတ္တိများ ရှိလာသောသူသည် သေဆုံးသွားပြန်သောအခါ ထိုစိတ်စွမ်းအင်တို့သည် စွဲလမ်းတမ်းတတ်ရာ၊ စိတ်စွမ်းအားများ အာရုံပြုရာအတိုင်း နောက်ထပ် မျိုးအောင်သောဥတွင် ကမ္မသတ္တိထူး အကျိုးဖြစ်ထွန်း၍ ဘဝသစ်ကို တစ်ဖန်ဖြစ်စေပြန်ပါသည်။ ဤနည်းဖြင့် မွေးဖွားခြင်း၊ သေခြင်း ဖြစ်စဉ်သည် ဆက်တိုက် ဖြစ်နေပါတော့သည်။ မွေးဖွားခြင်း၊ သေခြင်းကို ဆက်တိုက် ဖြစ်စေရသည့် အကြောင်းရင်းမှာ တပ်မက်မှု လောဘကြောင့် ဖြစ်ပါသည်။ တပ်မက်မှုလောဘ ဘဝတဏှာချုပ်သွားမှသာလျှင် မွေးဖွားခြင်း၊ သေခြင်းဖြစ်စဉ်သည် ပြတ်သွားမည် ဖြစ်ပါသည်။ ဘဝတပ်မက်မှု ပြတ်သွားသောအခါ ဘဝအသစ်တစ်ဖန် ပြန်လည်မွေးဖွားခြင်း မရှိတော့ဘဲ လူ့စိတ်စွမ်းအားတို့သည် နိဗ္ဗာန်သို့ရောက်ပါသည်။ နိဗ္ဗာန်သည် ဗုဒ္ဓဘာသာဝင်တို့အတွက် အဆုံးစွန်သော ရည်မှန်းချက် ဖြစ်ပါသည်။ ဘဝ၏ ရည်မှန်းချက်ဖြစ်ပါသည်။

**မေး။ စိတ်သည် ခန္ဓာအိမ်တစ်ခုမှ အခြားခန္ဓာအိမ်တစ်ခုသို့ မည်ကဲ့သို့ကူးပါသနည်း။**

**ဖြေ။** စိတ်သည် ခန္ဓာအိမ်တစ်ခုမှ အခြားတစ်ခုသို့ ကူးပြောင်းဖြစ်တည်မှုကို ရေဒီယိုလှိုင်း ဥပမာဖြင့် စဉ်းစားကြည့်ပါ။ ရေဒီယိုလှိုင်းတို့သည် စကားလုံးများ၊ ဂီတသံများဖြင့် ဖွဲ့စည်းထားခြင်း မဟုတ်ပါ။ ရေဒီယိုလှိုင်းတို့သည် စွမ်းအင်တစ်မျိုးပင်ဖြစ်ပါသည်။ စွမ်းအင်များကို ထုတ်လွှင့်လိုက်ရာ ထိုစွမ်းအင်တို့သည် ရွေ့လျားသွားကြပါသည်။ ထိုစွမ်းအင်လှိုင်းများကို တစ်နေရာတွင်ရှိနေသော အသံလှိုင်းဖမ်းကိရိယာက ဖမ်းယူပြီးနောက် စကားလုံးများ ဂီတသံများအဖြစ် ပြန်လည် လွှင့်ထုတ်ပေးပါသည်။ စိတ်သည်လည်း အသံလှိုင်းစွမ်းအားနှင့် အတူတူပင်ဖြစ်ပါသည်။ လူသေသွားလျှင် စိတ်စွမ်းအား ကမ္ဘာသတ္တိတို့သည် သေသောခန္ဓာမှ ကင်းကွာလာပြီး မျိုးအောင်သော ဥတစ်ခုတွင် အကျိုးသက်ရောက် ဖြစ်တည်ပါသည်။ ဤနည်းဖြင့် သန္ဓေသားလောင်း ကြီးထွားလာသောအခါ သူ၏ ဦးနှောက်ကို အချက်အချာပြုလျက် နောက်ပိုင်းတွင် သီးခြားကိုယ်ရည်ကိုယ်သွေး ပိုင်ရှင်တစ်ဦးအဖြစ် ပြန်လည် ထုတ်ဖော်ခြင်းများ ပြုလုပ်လာပါသည်။

**မေး။ လူသားသည် သေပြီး ပြန်လည်သန္ဓေတည်သောအခါ လူသားအဖြစ်သာလျှင် သန္ဓေတည်ပါသလား။**





**ဖြေ။** လူသား သေလျှင် လူသားပင် ပြန်ဖြစ်နေခြင်း မဟုတ်ပါ။ ပြန်လည်မွေးဖွားနိုင်သော ဘဝနယ်များစွာရှိပါသည်။ တချို့လူသားတို့သည် သေလျှင်ကောင်းကင်ဘုံ၌လည်းကောင်း၊ တချို့မှာ ငရဲဘုံ၌လည်းကောင်း၊ တချို့မှာ တော်မွတ်နေကြသော ပြိတ္တာ၊ သရဲ ဘဝ၌လည်းကောင်း ပြန်လည်ဖြစ်ကြရပါသည်။ ကောင်းကင်ဘုံ ဆိုသည်မှာလည်း နေရာတစ်ခု မဟုတ်ပါ။ ဘဝဖြစ်တည်ခြင်း တစ်မျိုးဖြစ်ပါသည်။ ထိုဖြစ်တည်ခြင်းတွင် အလွန်သိမ်မွေ့သော ရုပ်ရှိပါသည်။ စိတ်သည် ကောင်းမှု၊ ပျော်မှုများကို ခံစားနေရသော ဘဝဖြစ်တည်ခြင်း ဖြစ်ပါသည်။ တချို့သော ဘာသာဝင်တို့သည် ကောင်းကင်ဘုံ၌ ဖြစ်တည်ရမှုကို ထာဝရဖြစ်မှုဟု ယုံကြည်ပြီး ထိုဘဝမျိုးရအောင် ပြင်းပြင်းထန်ထန် ကြိုးစားအားထုတ်တတ်ကြပါသည်။ သို့သော် ထိုဖြစ်တည်မှုမှာလည်း ထာဝရမဟုတ်ပါ။ အခြားအခြားသော အဖြစ်အနေအရ ဖြစ်တည်ပျက်နေသည့် ကိစ္စများကဲ့သို့ပင် ကောင်းကင်ဘုံ (အဂ္ဂလောက)သည်လည်း မမြဲပါ။ ထိုဘဝသည် ရှည်လျားကြာညောင်းလွန်းသည်မှာ မှန်သော်လည်း ထိုဘဝ ကုန်ဆုံးခဲ့လျှင် လူသားအဖြစ်သော်လည်း ပြန်လည် သန္ဓေတည်နိုင်ပါသည်။ ငရဲဘုံ ဆိုသည်မှာလည်း နေရာမဟုတ်ပါ။ ဘဝရပ်တည်မှုတစ်မျိုးသာလျှင် ဖြစ်ပါသည်။ ကိုယ်ခန္ဓာမှာ အလွန်သိမ်မွေ့ပြီး စိတ်မှာမူ အဓိကအားဖြင့် သောကနှင့် စိတ်ပျက်စရာများသာ ခံစားနေရပါသည်။ ပြိတ္တာအဖြစ် တော်မွတ်နေရခြင်းမှာလည်း ဘဝရပ်တည်မှုတစ်မျိုး ဖြစ်ပါသည်။ ထိုရပ်တည်မှု

မျိုးတွင် ရုပ်ခန္ဓာမှာသိမ်မွေ့ပြီး စိတ်မှာမူကား အစားအစာကို အလွန် တောင့်တနေပြီး မကျေနပ်မှုများ အမြဲဖြစ်နေရပါသည်။

ထို့ကြောင့် အပ္ပလောကတွင် ဖြစ်ရသော ဘဝများသည် သာယာမှုများကိုသာ ခံစားစံစားကြရပါသည်။ ငရဲလောကတွင် ဖြစ်ရသော ဘဝများသည်လည်းကောင်း၊ ပြိတ္တာဘဝတွင် လည်းကောင်း မကောင်းသော ဝေဒနာများကိုသာ ခံစားကြရ ပါသည်။ လူ့ဘဝတွင်မူ သာယာသည့်ဝေဒနာများကို ခံစားရ သည့်အခါ ရှိသကဲ့သို့ပင် မသာယာသော ဝေဒနာများကို ခံစား ရသည်များလည်း ရှိပါသည်။ လူ့ဘဝသည်သာယာမှု၊ မသာ ယာမှုများ ရောထွေးနေပါသည်။ ထို့ကြောင့် လူ့ဘဝ ရုပ်တည်မှု နှင့် အခြားသော ဘုံဘဝများတွင် ရုပ်တည်မှု ကွဲပြားချက်မှာ ခံစားရသောအတွေ့အကြုံနှင့် ရုပ်သဘာဝ ခြားနားခြင်းသာ ကွဲပြားခြားနားပါသည်။

**မေး။ မည်သည့်ဘဝတွင် ပြန်လည်ဖြစ်မည်ဆိုသော ကိစ္စ တွင် မည်သည့် အချက်သည် အဆုံးအဖြတ်ပေးသော အချက် ဖြစ်ပါသလဲ။**

**ဖြေ။** မည်သည့်ဘဝကို ရမည်ဆိုသည့်ကိစ္စတွင် အရေးအကြီး ဆုံးသောအချက်မှာ ကမ္မပင်ဖြစ်ပါသည်။ ဤအချက်မှာ အရေး အကြီးဆုံးအချက် ဖြစ်သည်မှာမှန်သော်လည်း တစ်ခုတည်း သော အကြောင်းအချက်တော့ မဟုတ်ပါ။ ကမ္မဆိုသည်မှာ လုပ်ရပ်ပင်ဖြစ်ပါသည်။ ဖြစ်စေလိုသော စေတနာဦးဆောင်၍





ဆောင်ရွက်သောလုပ်ရပ်ကို ကမ္မဟု ခေါ်ပါသည်။ တစ်နည်း အားဖြင့်ဆိုလျှင် ကျွန်ုပ်တို့ လက်ရှိရနေသော အခြေအနေ တို့သည် ကျွန်ုပ်တို့ အတိတ်ကလုပ်ခဲ့သော ကမ္မသတ္တိကြောင့် ဖြစ်ရသော အကျိုးတရားများသာ ဖြစ်ပါသည်။ ထိုနည်းတူပင် ယခုလက်ရှိဘဝတွင် ပြောဆိုစဉ်းစား ဆောင်ရွက်မှုတို့သည် နောင်ဘဝတွင် မည်ကဲ့သို့ဖြစ်မည် ဆိုသော ကိစ္စတွင် လွှမ်းမိုးမှု ရှိမည်သာ ဖြစ်ပါသည်။

ညင်သာ၍ ကြင်နာတတ်သူ၊ မေတ္တာတရား လက်ကိုင် ထားသူသည် အပ္ပလောကတွင် ပြန်လည်မွေးဖွားရန် အလား အလာ များစွာရှိပါသည်။ သို့မဟုတ်ပါက လူ့ဘဝတွင် ပြန် လည် မွေးဖွားလာပြီး သာယာသော ဘဝအတွေ့အကြုံများစွာ ခံစားစံစားနိုင်သည့် အလားအလာများပါသည်။ သောက ရောက်နေပြီး အလွန်ရက်စက်ကြမ်းကြုတ်သော သူသည် ငရဲ တွင်ပြန်လည်မွေးဖွားရန် အလားအလာများပါသည်။ သို့မဟုတ် အတိတ်ကံရှိပ်များကြောင့် လူပြန်ဖြစ်ခဲ့လျှင်လည်း ဒုက္ခဆင်းရဲ ပေါင်းများစွာ ဝိုင်းဝိုင်းလည်နေသော ဘဝအတွေ့အကြုံကို ခံစားရသည့်လူသားသာလျှင် ဖြစ်ရန် အလားအလာများပါ သည်။ အတောမသတ်နိုင်သော လောဘတဏှာ ကြီးလွန်းသူ၊ ကြောက်ခမန်းလိလိ ရလိုမှုလောဘများသူ၊ လိုချင်တပ်မက်စိတ် တည်းဟူသောမီး တောက်လောင်နေပြီး ဘယ်သောအခါမှ ကျေ နပ်တင်းတိမ် ရောင့်ရဲခြင်း မရှိသူသည် သေလွန်သောအခါတွင် ပြိတ္တာဘဝတွင် ပြန်လည်မွေးဖွားရန် အလားအလာများပါ

သည်။ သို့မဟုတ် ရှေးအတိတ်ဘဝများစွာက ကံအကြောင်းကြောင့် လူ့ဘဝတွင် ပြန်လည်မွေးဖွားပါကလည်း လိုချင်တပ်မက်မှုများဖြင့် စိတ်သောကရောက်နေရသည့် ဘဝမျိုးကိုရရှိဖို့ အလားအလာများပါသည်။ လက်ရှိ အသက်ရှင်နေသောဘဝတွင် အမြဲတစေ ပျိုးထောင်လေ့ကျင့်ထားသော ဖြင်းပြသည့် စိတ်အလေ့အကျင့်တို့သည် နောင်ဘဝတွင် ဆက်လက်ရှင်သန်မည့် စိတ်အလေ့အကျင့်များပင် ဖြစ်ပါသည်။ လူသားကဲ့သို့ ကျင့်ကြံအားထုတ်သော လူအများသည် နောက်ဘဝတွင် လူအဖြစ် ပြန်လည်မွေးဖွားနိုင်သော အလားအလာများစွာ ရှိကြပါသည်။

**မေး။ ကမ္မအတိုင်း အစဉ်အမြဲ အဆုံးအဖြတ်အပြုခံရသည် မဟုတ်ဘဲ ရရှိနိုင်သည့် ဘဝအလားအလာနှင့် ပတ်သက်၍ ပြောင်းလဲပေးနိုင်ပါသလား။**

**ဖြေ။** ပြောင်းလဲပေးနိုင်ပါသည်။ ထို့ကြောင့်ပင် မြင့်မြတ်သော မဂ္ဂင်ရှစ်ပါး အကျင့်တရားတွင် သမ္မာဝါယာမ (Perfect Effort) ဟူသော ကောင်းစွာကြိုးစားအားထုတ်ခြင်းကို ကျင့်စဉ်တစ်ခုအဖြစ် ထည့်သွင်းထားခဲ့ခြင်း ဖြစ်ပါသည်။ စိတ်အလေ့အကျင့်ပြုရာတွင် မည်မျှ စိတ်ထားစင်ကြယ်သည်၊ မည်မျှ စိတ်စွမ်းအားစိုက်ထုတ်သည်၊ အလေ့အကျင့်မှာ မည်မျှ ခိုင်မာသည်ဆိုသည့် အချက်များပေါ်တွင် မူတည်ပါသည်။ သို့သော် များသောအားဖြင့် လူတို့သည် သူတို့၏အတိတ်ဘဝက စိတ်





အလေ့အကျင့်များ အတိုင်းသာလျှင် ဘဝတစ်လျှောက်တွင် နေထိုင်တတ်ကြပါသည်။ ရယူတည်နေရသော ဘဝတွင် စိတ်အလေ့အကျင့်ကို ကောင်းအောင် ပြုပြင်ကြိုးစားအားထုတ်မှု မပြုတတ်ကြပေ။ ဤနည်းအားဖြင့် လူတို့သည် မကောင်းကျင့်ရလဒ်များ၏ တရားခံများသာလျှင် ဖြစ်လာတတ်ကြပါသည်။ ထိုကဲ့သို့သော လူများသည် သူတို့၏ မကောင်းသော စိတ်အလေ့အကျင့်ဆိုးများကို ပြုပြင်ပြောင်းလဲခြင်း မပြုပါက ဒုက္ခမျိုးစုံကို အမြဲပင် ဆက်လက်ခံစားနေကြရမည်သာ ဖြစ်ပါသည်။ အလေ့အကျင့်ဆိုးများ ဖြစ်တည်နေသည့် ကာလကြာရှည်လေလေ၊ ၎င်းတို့ကိုပြုပြင်ရန် ခက်ခဲလေလေ ဖြစ်ပါသည်။ ဗုဒ္ဓဘာသာဝင်တို့သည် ဤဖြစ်စဉ် သဘောတရားကို ကောင်းစွာ နားလည်ကြပါသည်။ ထို့ကြောင့် မကောင်းသော စိတ်အလေ့အကျင့်ဆိုးများကို ပယ်ဖြတ်လျက် ကောင်းကျိုးချမ်းသာကို ပေးဆောင်နိုင်သော ကုသိုလ်စိတ် အလေ့အကျင့်များကို ပျိုးထောင်မွေးမြူကြခြင်း ဖြစ်ပါသည်။ စိတ်၏ အလေ့အကျင့်ပုံစံကို ပြုပြင် ပြောင်းလဲရာတွင် စိတ်ကို တည်ငြိမ်စွာထား၍ ကမ္မဋ္ဌာန်း တရားထိုင်ခြင်းသည် နည်းလမ်းတစ်သွယ် ဖြစ်ပါသည်။ ဗုဒ္ဓ၏ တစ်ဘဝလုံးတွင် စိတ်ကို အနှောင်အဖွဲ့များမှ လွတ်လပ်ပြီး ဖြူစင်သန့်ရှင်း စင်ကြယ်အောင် လေ့ကျင့်ခဲ့ပါသည်။ ဥပမာအားဖြင့် သည်းခံခြင်းနှင့် ကြင်နာသနားတတ်ခြင်း စိတ်အလေ့အကျင့်သည် အတိတ်ဘဝများက ထင်ရှားခဲ့သော စိတ်လက္ခဏာသဘော ဖြစ်ခဲ့လျှင်

မျက်မှောက်ဘဝတွင်လည်း သည်းခံခြင်း၊ ကြင်နာခြင်းတည်းဟူသော ကောင်းမြတ်သော စိတ်လက္ခဏာများကို ကမ္ဘာသတ္တိအားဖြင့် ရရှိလာမည်ဖြစ်ပါသည်။ ထို အကျင့်ကောင်းတို့ကို ထပ်မံတိုးပွားစေရန် မျက်မှောက်ဘဝတွင် ဖျိုးထောင် လေ့ကျင့်ပါက ယခုမျက်မှောက်ဘဝလွန်ပြီး နောက်ဘဝတွင် ထိုစိတ်ကောင်း လက္ခဏာများသည် ပိုမိုထင်ရှားသော စိတ်လက္ခဏာများအဖြစ် ဖြစ်တည် အကျိုးသက်ရောက်လာမည်ဖြစ်ပါသည်။ ဤသဘောတရားမှာ လွယ်လွယ်နှင့် ထင်သာမြင်သာလှပါသည်။ ခိုင်မြဲသော အလေ့အကျင့်တစ်ခုသည် လွယ်လွယ်နှင့် ချိုးဖျက်၍မရနိုင်သည်မှာ ထင်ရှားလှပါသည်။

သင်သည် သည်းခံမှုရှိပြီး ကြင်နာသနားတတ်သော သဘောရှိခဲ့လျှင် အခြားလူများက သင့်အား လွယ်လင့်တကူ စိတ်အနှောင့်အယှက်ဖြစ်အောင် မလုပ်နိုင်တော့ပေ။ အခြားလူများအပေါ်တွင်လည်း သည်းခံစိတ်ထားသဖြင့် ကလဲ့စားချေလိုသော စိတ်များလည်း သင့်တွင် မဖြစ်ပေါ်တော့ပေ။ အခြားလူများကလည်း သင့်အား နှစ်သက်ချစ်ခင်ကြမည်ဖြစ်ပါသည်။ ဤအကျိုးဆက်များကြောင့် သင်သည် ပျော်ရွှင်ချမ်းမြေ့သော ဘဝအတွေ့အကြုံများကို ခံစားစံစားရမည်ဖြစ်ပါသည်။

အခြားဥပမာတစ်ခု ယူကြည့်ရအောင်။ အတိတ်ဘဝက စိတ်အလေ့အကျင့်ကြောင့် သင်သည် မျက်မှောက်ဘဝတွင် သည်းခံစိတ်၊ အများအပေါ် ကြင်နာသနားတတ်သော စိတ်





အလေ့အကျင့် ကမ္ဘာသတ္တိထူး ရလာခဲ့သည်ဆိုကြပါစို့။ သို့သော် သင်သည် မျက်မှောက် အသက်ရှင်နေသောဘဝတွင် ထိုစိတ်အလေ့အကျင့်ကောင်းများကို တိုးပွားအားကောင်းလာအောင် လေ့ကျင့်အားထုတ်ခြင်းပြုရန် မေ့လျော့ ပျက်ကွက်သည်၊ လျစ်လျူရှုခဲ့သည် ဆိုပါစို့။ ထိုအလေ့အကျင့်ကောင်းများသည် တဖြည်းဖြည်း မှေးမှိန်ပျောက်ပျက်ပြီး နောက်ဘဝတွင် လုံးဝကွယ်ပျောက်သွားသည်အထိ ဖြစ်သွားနိုင်ပါသည်။ မျက်မှောက်ဘဝတွင် သည်းခံစိတ်၊ ကြင်နာစိတ် အလေ့အကျင့် ခေါင်းပါး အားနည်းခဲ့သည့်အတွက် မျက်မှောက်ဘဝနှင့် နောင်ဘဝတွင် စိတ်တိုခြင်း၊ ဒေါသကြီးခြင်း၊ ရက်စက် ကြမ်းကြုတ်ခြင်း စသည့် စိတ်အလေ့အကျင့်ဆိုးများ ဖြစ်လာရန် အလားအလာများပါသည်။ ထို စိတ်အကျင့်ဆိုးများနှင့်အတူ မသာယာသော ဘဝအတွေ့အကြုံများနှင့် စိတ်သဘောထားများသည် အကျိုးဆက်တရားများအဖြစ် ဖြစ်ပေါ်လာပါလိမ့်မည်။

နောက်ဥပမာတစ်ခု ယူကြည့်ကြရအောင်။ သင်၏ အတိတ်ဘဝက စိတ်အလေ့အကျင့်ကြောင့် မျက်မှောက်ဘဝတွင် ဒေါသကြီးသော အကျင့်၊ စိတ်တိုသော အကျင့်ရှိခဲ့သည် ဆိုပါစို့။ စိတ်တိုမှု၊ ဒေါသထွက်မှုတို့သည် မသာယာမှုကိုသာ ဖြစ်စေသည်ကို သင်ကိုယ်တိုင် သဘောပေါက်နားလည်သဖြင့် ထိုစိတ်အကျင့်ဆိုးများ ပပျောက်အောင် ကြိုးစားပြုပြင်သည် ဆိုပါစို့။ စိတ်အကျင့်ဆိုးများနေရာတွင် စိတ်အကျင့်ကောင်းများ အစားထိုးမွေးရန် ကြိုးစားအားထုတ်သည် ဆိုပါစို့။ စိတ်အကျင့်

ဆိုးများကို လုံးဝကောင်းစင်သည်အထိ ပြုပြင်နိုင်သည် ဆိုပါစို့။ လုံးဝကောင်းစင်သည်အထိ ကြိုးစားလျှင် လုံးဝကောင်းစင်ပါသည်။ ထိုသို့ကြိုးစားခဲ့လျှင် သင်သည် မသာယာသော ဘဝအတွေ့အကြုံခံစားမှုများမှ လုံးဝလွတ်ကင်းလာပါလိမ့်မည်။ မသာယာသော ဘဝအတွေ့အကြုံများသည် စိုးရိမ်မှု၊ ဒေါသကြီးမှုစသော မကောင်းသည့် စိတ်အလေ့အကျင့်များ၏ အကျိုးဆက်များသာ ဖြစ်ကြပါသည်။ မကောင်းသော စိတ်အလေ့အကျင့်များကို လုံးဝကောင်းအောင် မကြိုးစားဘဲ အားလျော့ရုံလောက်သာ ကြိုးစားနေခဲ့လျှင် ထိုအကျင့်ဆိုးတို့သည် ကမ္မသတ္တိဖြင့် နောင်ဘဝတွင် ထပ်မံ ဖြစ်တည် ပေါ်ပေါက်လာဦးမည့် အလားအလာများရှိနိုင်ပါသည်။ ဆိုးကျိုးဆက်များလည်း အထိုက်အလျောက် ခံစားရဦးမည့် အလားအလာများ ရှိနေပါသေးသည်။ အကယ်၍သာ မကောင်းသော စိတ်အလေ့အကျင့်များကို လုံးဝပယ်ရှင်းအောင် မျက်မှောက်ဘဝတွင် ကြိုးစား အားထုတ်နိုင်ခဲ့ပါလျှင် မကောင်းကျိုးများမှ သင်သည် လုံးဝကင်းလွတ်မည် ဖြစ်ပါသည်။

**မေး။ ဘဝသစ်တွင် ပြန်လည်မွေးဖွားခြင်းအကြောင်းနှင့်ပတ်သက်၍ များစွာပြောဆိုခဲ့ပါသည်။ သေဆုံးပြီးနောက် ဘဝသစ်တွင် ပြန်လည်၍ မွေးဖွားခြင်းနှင့် ပတ်သက်၍ သက်သေ အထောက်အထားများ ရှိပါသလား။**

ဖြေ။ ဘဝအသစ်တစ်ဖန် ပြန်လည်မွေးဖွားခြင်းနှင့် ပတ်သက်





သည့် ဗုဒ္ဓ၏ အယူအဆကို ထောက်ခံသည့် လက်တွေ့အထောက်အထားများ ရှိသည်သာမက ဘာသာရေးသည်မှ သဘောတရားနှင့် ပတ်သက်၍ အထောက်အကူပြုသော သက်သေအထောက်အထား များစွာရှိပါသည်။ ကောင်းကင်ဘုံနှင့်ပတ်သက်၍ သော်လည်းကောင်း၊ သေဆုံးပြီး လုံးဝပျက်စီးကွယ်ပျောက်ခြင်း (annihilation) နှင့်ပတ်သက်၍သော်လည်းကောင်း သက်သေပြရန် ခိုင်လုံသောအထောက်အထား အနည်းငယ်မျှပင်မရှိပါ။ လွန်ခဲ့သော နှစ်ပေါင်း ၃၀ ခန့်က စိတ်နယ်လွန်ပညာရှင်တို့သည် အတိတ်ဘဝက မှတ်ဉာဏ်များကို ထင်ထင်ရှားရှားမှတ်မိနေသော လူများနှင့်ပတ်သက်သည့် အစီရင်ခံစာများကို လေ့လာခဲ့ကြပါသည်။ ဥပမာ အင်္ဂလန်နိုင်ငံတွင် ၅ နှစ်အရွယ် မိန်းကလေးတစ်ဦးက သူမ၏ အတိတ်ဘဝက အမေနှင့်အဖေတို့ကို မှတ်မိသည်ဟု ပြောခဲ့ပါသည်။ ထိုအဖြစ်အပျက်ကို အခြားလူတစ်ဦး၏ အဖြစ်အပျက်ကိုကြည့်၍ ပြောနေသကဲ့သို့ ရှင်းရှင်းလင်းလင်း၊ တိတိကျကျ ပြောပြပါသည်။ ထိုအခါ စိတ်နယ်လွန်ပညာရှင်များ လာပြီး ထိုကလေးမလေးအား ရာပေါင်းများစွာသော မေးခွန်းများကို မေးကြပါသည်။ မေးသမျှကို သူမက ဖြေပါသည်။ သူမ နေခဲ့သောရွာကလေးကို အသေးအဖွဲ ပြောပြနိုင်ပါသည်။ ထိုရွာကလေးမှာ ဝေလနိုင်ငံတွင် ရှိသောရွာကလေး ဖြစ်နေပါသည်။ နေခဲ့သော ရွာအမည်၊ လမ်းအမည်၊ အိမ်နီးချင်းများ၏ အမည်ကိုသာမက ထိုရွာတွင် နေ့စဉ်လုပ်ကိုင်ခဲ့ရသမျှကို အသေးစိတ် ပြောပြပါသည်။

မော်တော်ကားအတိုက်ခံရသဖြင့် ထိုဒဏ်ရာဖြင့် ၂ ရက် အကြာတွင် သေဆုံးခဲ့ရပုံကိုလည်း မျက်ရည်စက်လက်ဖြင့် ပြောပြပါသည်။ သူမပြောပြချက် အသေးစိတ်ကို တိုက်ဆိုင်စစ်ဆေးကြည့်သောအခါ အားလုံး အတိအကျ မှန်ကန်နေသည်ကို တွေ့ရပါသည်။ ငါးနှစ်သမီးကလေး ပြောပြသော ရွာအမည် စပိန်နိုင်ငံတွင် ရှိနေပါသည်။ သူမ ပြောပြသောလမ်းတွင် သူမ ဖော်ပြသောအိမ်မျိုး ရှိနေပါသည်။ ထို့ထက်ပိုသည်မှာ ထိုအိမ်တွင်နေသော အသက် ၂၃ နှစ်အရွယ်ရှိ အမျိုးသမီးတစ်ဦးမှာ လွန်ခဲ့သော ၅ နှစ်က ကားတိုက်ခံရပြီး သေဆုံးခဲ့ပါသည်။ အင်္ဂလန်တွင် မွေးပြီး စပိန်နိုင်ငံသို့ တစ်ခေါက်တစ်ခါမှ မရောက်ဖူးသော ငါးနှစ်အရွယ်သာ ရှိသေးသော ကလေးငယ်တစ်ဦးက ဤသို့သော အသေးစိတ်များကို အဘယ့်ကြောင့် ပြောနိုင်ပါသနည်း။ ဤကိစ္စမှာ တစ်ခုတည်းသော အဖြစ်အပျက် မဟုတ်ပါ။ ဗာဂျင်နီးယားတက္ကသိုလ်မှ စိတ်ပညာ ပါမောက္ခ စတီဗင်ဆင်သည် သူ၏ စာအုပ် (Twenty Cases Suggestive of Re-incarnation and Cases of Reincarnation Type. University Press of Verginia, Charlotteville USA,1975 ) တွင် အလားတူအဖြစ်အပျက် ဒါဇင်ပေါင်းများစွာကို လေ့လာဖော်ပြထားပါသည်။ စတီဗင်ဆင်သည် ထင်ရှားပြီးလေးစားရသော သိပ္ပံပညာရှင်တစ်ဦးဖြစ်ပြီး နှစ်ပေါင်း ၂၅ နှစ်ကြာ အတိတ်ဘဝကိုမှတ်မိသော လူများအကြောင်းကို လေ့လာခဲ့သူ ဖြစ်ပါသည်။





သူ၏ လေ့လာတွေ့ရှိချက်များသည် ဗုဒ္ဓ၏ ဘဝသစ်တစ်ဖန် ပြန်လည်မွေးဖွားခြင်း အယူအဆကို သက်သေခံသော အထောက်အထားများပင် ဖြစ်ပါသည်။

**မေး။ တချို့ကလည်း အတိတ်ဘဝကို ပြန်လည်မှတ်မိပြောဆိုနိုင်ခြင်းသည် မကောင်းဆိုးဝါးတို့ ဝင်ရောက်ပူးကပ်ခြင်းဟု ဆိုကြပါသည်။ မှန်ပါသလား။**

ဖြေ။ မိမိ၏ ယုံကြည်ချက်နှင့် အံဝင်ခွင်ကျမှုမရှိတိုင်း မကောင်းဆိုးဝါးတို့၏ ပူးကပ် နှောင့်ယှက်မှုဟု ပယ်ချရန်မသင့်ပါ။ အသေအချာ အမှန်အကန် အထောက်အထားများရှိနေသည့်ကိစ္စများကို ငြင်းချက်ထုတ်ပြီး ပြောဆိုလိုပါလျှင် အကျိုးအကြောင်း ဆီလျော်ပြီး ယုတ္တိရှိစွာ ငြင်းချက်ထုတ်သင့်ပါသည်။ မကောင်းဆိုးဝါး စသည့် ယုတ္တိမဲ့၊ ကျိုးကြောင်းမဲ့ အယူအဆများကို ထည့်သွင်းပြောဆိုခြင်းမပြုသင့်ပါ။

**မေး။ မကောင်းဆိုးဝါးအကြောင်း ပြောဆိုခြင်းသည် ယုတ္တိမဲ့ အစွဲအလမ်းကြီးလွန်းမှု ဖြစ်သည်ဟု ဆိုပါလျှင် ဘဝသစ်တွင် တစ်ဖန်မွေးဖွားခြင်းကိစ္စမှာလည်း အနည်းနှင့်အများ ယုတ္တိမဲ့ အစွဲအလမ်းပင် ဖြစ်သည်ဟု မဆိုနိုင်ဘူးလား။**

ဖြေ။ ကောင်းပါပြီ။ ယုတ္တိမဲ့ အစွဲအလမ်းဟူသောဝေါဟာရကို အဘိဓာန်တွင် ကျိုးကြောင်းဆင်ခြင်မှုပေါ်တွင်လည်းကောင်း၊

အမှန်တကယ် အချက်အလက်ပေါ်တွင် လည်းကောင်း အခြေမပြုဘဲ ရျက်လှည့်ကဲ့သို့ အယူအဆတစ်ခုပေါ်တွင် မူတည်ထားသော ယုံကြည်မှုဟု ဖွင့်ဆိုထားပါသည်။ မကောင်းဆိုးဝါးများ တည်ရှိသည့်အကြောင်း သေသေချာချာ လေ့လာထားသော သိပ္ပံပညာရှင်တစ်ဦးဦးက အထောက်အထား ပြထားပါလျှင် မကောင်းဆိုးဝါးဆိုသည်မှာ ယုတ္တိမဲ့ အစွဲအလမ်းမဟုတ်ဟု လက်ခံယုံကြည်ပါမည်။ ဤမကောင်းဆိုးဝါးနှင့်ပတ်သက်၍ လေ့လာထားသော သုတေသနအထောက်အထားများ မတွေ့ဖူးပါ။ ထို့ကြောင့် မကောင်းဆိုးဝါးများ တည်ရှိပါသည်ဆိုသည့် ကိစ္စနှင့်ပတ်သက်၍ အထောက်အထားများမရှိဟု ပြောရခြင်းဖြစ်ပါသည်။ သို့သော်လည်း အထက်မှာပြောပြခဲ့သည့်အတိုင်း ပြန်လည် မွေးဖွားခြင်းနှင့် ပတ်သက်၍နိုင်မာသော အထောက်များ ရှိနေပါသည်။ ထို့ကြောင့် ဘဝသစ်တွင် ပြန်လည် မွေးဖွားခြင်းနှင့် ပတ်သက်၍နိုင်မာသောအထောက်အထားများရှိခဲ့လျှင် ဤသဘောတရားဖြစ်စဉ်သည် ယုတ္တိမဲ့အစွဲအလမ်း မဟုတ်တော့ပါ။

**မေး။ ကောင်းပါပြီ။ ဘဝသစ်တွင် ပြန်လည်မွေးဖွားခြင်းနှင့် ပတ်သက်သည့် အယူအဆကို လက်ခံသော သိပ္ပံပညာရှင်များ ရှိပါသလား။**

ဖြေ။ လက်ခံယုံကြည်သော သိပ္ပံပညာရှင်များ ရှိပါသည်။ Thomas Huxley သည် ၁၉ ရာစုနှစ်များအတွင်း သိပ္ပံနည်းကျ





အတွေးအခေါ် အယူအဆများကို ဖော်ထုတ်ပေးသော ဗြိတိသျှသိပ္ပံပညာရှင်တစ်ဦး ဖြစ်ပါသည်။ သူသည် ဒါဝင်၏ အဆင့်ဆင့်ပြောင်းလဲတိုးတက်မှု သီအိုရီ သဘောတရားများကို ထောက်ခံခဲ့သော ပထမဦးဆုံးသော သိပ္ပံပညာရှင်လည်း ဖြစ်ပါသည်။ လူဝင်စားခြင်း၊ ဘဝအသစ်တစ်ဖန် မွေးဖွားခြင်းအယူအဆသည် ယုတ္တိရှိ၍ မှန်ကန်သော အယူအဆ ဖြစ်နိုင်သည်ဟု ယုံကြည်ခဲ့ပါသည်။ သူသည် နာမည်ကျော်ဆင့်ကဲဖြစ်ပေါ်ခြင်း၊ လူ့ကျင့်ဝတ်နှင့် အခြားစာများ ( Evolution and Ethics and Other Essays ) ဟူသော စာအုပ်တွင် အောက်ပါအတိုင်း ရေးသားခဲ့ပါသည်။

ဘဝကူးပြောင်းခြင်း အယူအဆနှင့် ပတ်သက်၍ မည်သည့် အယူအဆသည် မူလကျသည်ဆိုစေ ဗြဟ္မဏနှင့် ဗုဒ္ဓအယူအဆများသည် ကြောင်းကျိုးဆက်စပ်မှုနှင့် လူသားတို့ ဆက်နွယ်မှုသဘောကို ကျိုးကြောင်းဆီလျော်စွာ ဖြေရှင်းသော နည်းလမ်းကို ရှင်းလင်းထုတ်ဖော် ပြသခဲ့ပါသည်။ ထိုကျိုးကြောင်း ဖော်ပြရှင်းလင်းချက်များသည် အခြားအခြားသော ရှင်းလင်း ဖော်ပြချက်များထက် ဖြစ်နိုင်ချေနည်းသည်၊ ယုတ္တိတန်မှု နည်းသည်ဟု မဆိုနိုင်ပါ။ ထိုရှင်းလင်းဖော်ပြချက်များကို ပေါ့ပေါ့တန်တန်လျှံပြီး အတွေးမြန်တတ်သူများကလွဲ၍ လက်ခံနိုင်စရာရှိပါသည်။ ပေါ့ပေါ့တန်တန် လျှံပြီး အတွေး မြန်တတ်သူများကမူ ထိုရှင်းလင်းချက်များသည် ပင်ကိုမူလအားဖြင့် လက်ခံနိုင်စရာ မရှိဟုဆိုပြီး ငြင်းပယ်ကြမည်ဖြစ်ပါသည်။ အဆင့်ဆင့် ပြောင်း

လဲ တိုးတက်မှု သဘောတရားကဲ့သို့ပင် ဘဝသစ်ရရှိခြင်းနှင့် ပတ်သက်သော သဘောနှင့် ဖြစ်စဉ်သည် သဘာဝလောက အဖြစ်မှန်တရားများ အပေါ်တွင် အခြေတည်၍ ဖြစ်နေပါသည်။

ရူပဗေဒပညာရှင်နှင့် **Einstein** ၏ မိတ်ဆွေလည်း ဖြစ်သော ဆွီဒင်လူမျိုး နက္ခတ္တဗေဒပညာရှင် ပါမောက္ခ **Gustaf Stromberg** အနေဖြင့်လည်း ဘဝသစ်တွင် ပြန်လည်၍ မွေးဖွားခြင်းအယူအဆကို နှစ်မြိုက်လက်ခံခဲ့ပေသည်။

လူသား၏ စိတ်(ဝိညာဉ်)သည် ဤကမ္ဘာလောကတွင် ပြန်လည်၍ ဘဝအသစ်ဖြစ်တည်နိုင်၊ မတည်နိုင်ဆိုသည့် ကိစ္စနှင့်ပတ်သက်၍ အယူအဆကွဲပြားခြားနားမှု များစွာ ရှိခဲ့ပါသည်။ ၁၉၃၆ ခုနှစ်တွင် အလွန်စိတ်ဝင်စားစရာကောင်းသော ပြဿနာတစ်ရပ်ကို စူးစမ်းလေ့လာမှု ပြုခဲ့ကြပါသည်။ လေ့လာတွေ့ရှိချက်များကို အိန္ဒိယနိုင်ငံ တာဝန်ရှိသူများက အစီရင်ခံစာ ထုတ်ပြန်ခဲ့ပါသည်။ ဒေလီမြို့မှ မိန်းကလေး 'ရှန့်တီဒေဗီ' သည် သူမ၏အတိတ်ဘဝကို တိတိကျကျ ဖော်ပြနိုင်ခဲ့ပါသည်။ သူမ၏ လက်ရှိနေရာ ဒေလီနှင့် မိုင်၅၀၀ ဝေးသော အတိတ်ဘဝက အသက်ရှင်ခဲ့သော မုတ္တရာဒေသတွင်ဖြစ်ပါသည်။ ထိုအတိတ်ဘဝမှာ သူမ၏ လက်ရှိဘဝ၌မမွေးဖွားမီ တစ်နှစ်ခန့်က အဆုံးသတ်ခဲ့ပါသည်။ ထိုကလေးမသည် အတိတ်ဘဝက သူမ၏ ခင်ပွန်းနှင့် ကလေးကိုလည်းကောင်း၊ နေအိမ်နှင့် ဘဝကိုလည်းကောင်း သရုပ်ဖော်ပြနိုင်ပါသည်။ လေ့လာသူများက ထိုမိန်းကလေးအား သူမ၏ အတိတ်ဘဝက တော်စပ်ခဲ့သည့် ဆွေမျိုး





များထံ ခေါ်ဆောင်သွားခဲ့ပါသည်။ ထိုဆွေမျိုးများက ထိုမိန်းကလေး၏ ပြောဆိုချက်များ မှန်ကန်ကြောင်း ထောက်ခံခဲ့ပါသည်။ အိန္ဒိယနိုင်ငံတွင် လူဝင်စားပြဿနာမှာ ထူးဆန်းသော ပြဿနာမဟုတ်တော့ပေ။ အဖြစ်ဆန်း မဟုတ်တော့ပေ။ သို့သော် ဤမိန်းကလေး၏ ထူးခြားချက်မှာ အတိတ်ဘဝက အဖြစ်အပျက် အကြောင်းအရာများစွာကို မှတ်မိနေခြင်းပင် ဖြစ်ပါသည်။ ဤပြဿနာနှင့် အလားတူ လူဝင်စားပြဿနာများက မှတ်ဉာဏ်သဘော၊ လုံးဝပျောက်ဖျက်၍ မရသည့်သဘောကို ညွှန်ပြနေသော အထောက်အထားများ ဖြစ်စေခဲ့ပါသည်။

ပါမောက္ခ **Julian Huxley** သည် ထင်ရှားသော ဗြိတိသျှလူမျိုး သိပ္ပံပညာရှင် ဖြစ်ပါသည်။ တစ်ချိန်က ယူနက်စကိုတွင် ညွှန်ကြားရေးမှူးချုပ်တာဝန်ကို ထမ်းဆောင်ခဲ့သူလည်း ဖြစ်ပါသည်။ ထိုပါမောက္ခကြီးက ဘဝသစ်တစ်ဖန် ပြန်လည်မွေးဖွားခြင်း အယူအဆသည် သိပ္ပံနည်းကျ စဉ်းစားတွေးခေါ်မှုနှင့် အံဝင်ခွင်ကျဖြစ်သည်။ ကိုက်ညီသည်ဟု လက်ခံယုံကြည်ပါသည်။

လူသားများ သေဆုံးသွားသောအခါ အသက်ရှင်စဉ်က တစ်နည်းနည်းအားဖြင့် ပြုလုပ်ခဲ့သော အမြဲရှင်သန်နေသည့် ကမ္ဘာသတ္တိ စိတ်စွမ်းအင်သည် ကြီးမဲ့ကြေးနန်းစက်မှ ထုတ်လွှတ်လိုက်သည့် အချက်ပေးသင်္ကေတများနှင့် တူကြပါသည်။ ၎င်းတို့သည် ထုတ်လွှတ်လိုက်သည့် စက်မှထွက်ခွာပြီး

သူ့နည်း သူ့ဟန်ဖြင့် ခရီးဆက်ခဲ့ပါသည်။ ထုတ်လွှတ်လိုက်သော အချက်ပေးသင်္ကေတတို့သည် ဖမ်းယူလက်ခံနိုင်သော လက်ခံမည့်စက်တစ်ခုခု ရှိမှသာလျှင် မူလ သတင်းအချက်အလက် ပြန်လည်ဖြစ်နိုင်ပါသည်။ ဝိညာဉ်ကူးပြောင်းမှုသဘောမှာလည်း ထို့အတူပင်ဖြစ်ပါသည်။ ရုပ်နာမ်နှစ်ခု ပေါင်းစပ်ဖြစ်တည်ရသော လောကတွင် စိတ်ဝိညာဉ်သဘောသည် တွယ်ကိန်းရန် ရုပ်ခန္ဓာမရှိခဲ့လျှင် စဉ်းစားခြင်း၊ ခံစားခြင်း အမှုကိစ္စများကို မပြုလုပ်နိုင်ပါ။

လက်တွေ့ကျ၍ အောက်ခြေအသေးစိတ်ကို စူးစမ်းလေ့လာပြီးမှသာ အရာရာကိုလက်ခံတတ်သော အမေရိကန်လူမျိုး စက်မှုလုပ်ငန်းရှင်ကြီး ဟင်နရီဖို့(ဒ်)သည်လည်း ဘဝသစ်တွင် ပြန်လည်မွေးဖွားခြင်း အယူအဆကို သဘောကျလက်ခံခဲ့ပါသည်။ ဤအယူအဆသည် ရုပ်ဝါဒသဘောနှင့်လည်းမတူ၊ ဖန်ဆင်းရှင်ဝါဒနှင့်လည်း မတူဘဲ နောင်ဘဝတွင် မိမိလက်ရှိဘဝအတိုင်း မိမိကိုယ်တိုင် ပြန်လည်မွေးဖွားလာအောင် ဖန်တီးနိုင်သော ဒုတိယအခွင့်အရေးကို ပေးသောကြောင့် ဖို့ဒ်က သဘောကျခြင်းဖြစ်ပါသည်။ ဟင်နရီဖို့ဒ်က အောက်ပါအတိုင်းပြောခဲ့ပါသည်။

ကျွန်တော်သည် အသက် ၂၆ နှစ်အရွယ်မှစ၍ လူဝင်စားခြင်း သဘောတရားကို လက်ခံခဲ့ပါသည်။ ဤနေရာတွင် ဘာသာရေးက ထောက်ပြ၍မဟုတ်ပါ။ ယခုလက်ရှိဘဝတွင် ရှာဖွေဆောင်းခဲ့သော လုပ်ငန်းအတွေ့အကြုံများကို နောင်ဘဝ





တွင် အသုံးချခွင့်မရပါက အလုပ်လုပ်နေရခြင်းသည် ဘာမှအကျိုးရှိမည်မဟုတ်ပါ။ လူဝင်စားနှင့်ပတ်သက်၍ ရှာဖွေတွေ့ရှိလာသောအခါ ကျွန်တော့်အဖို့ အစဉ်အဆက် အမြဲအသုံးပြုနိုင်သော အစီအစဉ်တစ်ရပ်ကို တွေ့သကဲ့သို့ဖြစ်လာပါသည်။ ကျွန်တော်၏အယူအဆကို လက်တွေ့ အကောင်အထည် ဖော်နိုင်သော အခွင့်အရေးရှိလာသည်ကို ကျွန်တော် နားလည်သဘောပေါက်ခဲ့ပါသည်။ ထိုအချိန်မှစ၍ အချိန်၏ ကန့်သတ်ချက်များလည်း ပျောက်ကွယ်ခဲ့ပါသည်။ ကျွန်တော်သည် အချိန်နာရီ လက်တံများ၏ အစေခံမဟုတ်တော့ပါ။ ထူးထူးချွန်ချွန်တော်ခြင်းဆိုသည်မှာ အတွေ့အကြုံပင် ဖြစ်သည်ကို နားလည်လာပါသည်။ တချို့ကလည်း ထူးထူးချွန်ချွန်တော်မှုကို ထူးခြားသော သဘာဝအမွေ၊ ထူးခြားချက်တစ်ရပ်အဖြစ်သာ လက်ခံကြပါသည်။ ဤကဲ့သို့ဖြစ်ရခြင်းမှာ ဘဝဘဝများစွာက စုဆောင်းခဲ့သော အတွေ့အကြုံများ၏ အကျိုးဆက်ဖြစ်သည်မှာ ထင်ရှားလှပါသည်။ အချို့မှာ လူပင်ငယ်သော်လည်း အတိတ်ဘဝများက ဖြတ်သန်းခဲ့သော အတိတ်က အတွေ့အကြုံတွေများသဖြင့် သူတို့က ပို၍သိကြ တတ်ကြပါသည်။ ဘဝသစ်တွင် ပြန်ဖြစ်ရခြင်း သဘောကို ရှာဖွေတွေ့ရှိခြင်းကြောင့် ကျွန်တော့်စိတ်မှာ သက်သာရာများစွာ ရခဲ့ပါသည်။ ယခု ပြောပြချက်မှတ်တမ်းကို တာရှည်စွာ ထိန်းသိမ်းထားလိုပါက ရေးချထားပါ။ ရေးချရာတွင် လူသားတို့၏စိတ်ကို သက်သာရာရစေရန် ရည်ရွယ်၍ရေးချထားပါ။ ဘဝသည် ရဉ်ဆက်မပြတ်

ဖြစ်သည့်သဘောနှင့် ဤသဘောတရားကြောင့် စိတ်တွင် တည်ငြိမ်မှုရသည်ကို အခြားသောလူများအား ပြောပြလိုလှ ပါသည်။

အထက်တွင် တင်ပြချက်များကို ကြည့်ပါက ဗုဒ္ဓ၏ ဘဝ များစွာသံသရာနှင့် ပတ်သက်သော ညွှန်ပြမှုကို ထောက်ခံသည့် သိပ္ပံအထောက်အထားများ ရှိသည်မှာ ထင်ရှားလှပါတော့ သည်။ ဤဖြစ်စဉ်သဘောသည် ကျိုးကြောင်းညီညွတ်ပြီး အကျိုးအကြောင်းမှန်အတိုင်း အမြဲဖြစ်ပါသည်။ ဖန်ဆင်းရှင် ဘုရားဝါဒ၊ ရုပ်ဝါဒများက ကျေနပ်ဖွယ်မဖြေရှင်းနိုင်သော ပြဿနာများကိုလည်း ဗုဒ္ဓဝါဒက ကျေနပ်ဖွယ် ကျိုးကြောင်း ညီညွတ်စွာ ဖြေရှင်းပေးနိုင်ပါသည်။ ဤအယူအဆသည် စိတ်၏သက်သာမှုကိုလည်း များစွာဖြစ်စေပါသည်။

ဘဝသဘောတရားနှင့် ပတ်သက်၍ ဒုတိယအကြိမ် အခွင့်အရေး လုံးဝမပေးသော အယူအဆ၊ မျက်မှောက်ဘဝတွင် ပြုလုပ်မိသောအမှားကို ပြန်လည်ပြုပြင်ခွင့်မပေးသော ဘဝ အယူအဆ၊ ယခုဘဝတွင် ပြုစုပျိုးထောင် လေ့ကျင့်ထားသော အရည်အချင်းများ၊ ကျွမ်းကျင်မှုများကို ပိုမိုပြည့်စုံအောင် လေ့ကျင့်ခွင့်မပေးသော 'ဘဝအယူအဆ' ထက် ဆိုးသောအရာ သည် မရှိတော့ပါ။ သို့သော်ဗုဒ္ဓ၏ ညွှန်ပြမှုအရ သင်သည် မျက်မှောက်ဘဝတွင် ဘဝ၏အဆုံးစွန်သော ရည်မှန်းချက် ဖြစ်သည့် နိဗ္ဗာန်ကို မရနိုင်သော်မှ နောင်ဘဝများတွင် နိဗ္ဗာန်ရ အောင် ထပ်မံကြိုးစားနိုင်သော အခွင့်အရေးများ ရှိပါသည်။





မျက်မှောက်ဘဝတွင် ကျူးလွန်ခဲ့သော အမှားများရှိခဲ့ပါက နောင် ဘဝများတွင် ထိုအပြစ်များကို ပြန်လည်ပြုပြင်နိုင်သော အခွင့် အရေးရှိပါသည်။ မိမိအမှားမှ ဘဝသင်ခန်းစာများကို ကောင်းစွာ သင်ယူနိုင်သော အခွင့်အရေး ရမည်မှာ သေချာလှပါသည်။ မျက်မှောက်ဘဝတွင် ကောင်းစွာ ဆောင်ရွက်နိုင်မှုများကြောင့် နောင်ဘဝများတွင် ထိုကောင်းမှုများပြုလုပ်ခွင့်နှင့် ကောင်းမှု အကျိုးဆက်များကို ခံစားခွင့်ရမည် ဖြစ်ပါသည်။ အလွန် ကောင်းမြတ်သော လမ်းညွှန်ချက်များပင် ဖြစ်ပါတော့သည်။

ဝ

## ပညာ နှင့် မေတ္တာ

**မေး။ ဗုဒ္ဓဘာသာဝင်များ သနေဖြင့် ပညာနှင့် မေတ္တာ အကြောင်း များစွာပြောဆိုကြပါသည်။ ပညာနှင့် မေတ္တာ တို့၏ သဘောကို ရှင်းပြပါ။**

ဖြေ။ အချို့သော ဘာသာအယူများတွင် မေတ္တာ၊ သို့မဟုတ် ချစ်ခြင်းသည် စိတ်ပိုင်းဆိုင်ရာ အရေးအကြီးဆုံးသော အရည်အချင်းများဖြစ်သည်ဟု လက်ခံယုံကြည်ကြပါသည်။ ၎င်းတို့တွင် ဉာဏ်ပညာအဆင့် မပါဝင်ပါ။ ဉာဏ်ပညာမပါဘဲ စိတ်ကောင်းရှိသော လူတစ်ယောက်သာလျှင် ဖြစ်လာပါလိမ့်မည်။ သိပ္ပံပညာကဲ့သို့သော အခြားသော အတွေးအခေါ်စနစ်များအရ မေတ္တာအပါအဝင် စိတ်လှုပ်ရှားမှုများအားလုံးကို ဖယ်ရှားနိုင်မှသာလျှင် အသိဉာဏ်ပညာသည် တိုးပွားလာနိုင်ပါသည်။ သိပ္ပံပညာရပ်မှာလည်း ရလာမည့် အကျိုးတရားပေါ်တွင်သာ အဓိကထားလွှမ်းနေပါတော့သည်။ သိပ္ပံသည် လူသားတို့ကို အကျိုးပြုရန်ဖြစ်သည်။ သိပ္ပံသည် လူသားတို့အပေါ် ခြယ်လှယ် ချုပ်ကိုင်လွှမ်းမိုးရန်မဟုတ် ဆိုသည့်သဘောများမှာ





ပျောက်နေတတ်ပါသည်။ သိပ္ပံပညာရှင်တို့သည် နျူကလီးယားဗုံးများ ထုတ်လုပ်ရေးနှင့် လူသားများ ရောဂါကူးစက်စေသော ရောဂါပိုးမွှားလက်နက်များဖြင့် စမ်းသပ်ခြင်းလုပ်ငန်းတို့တွင် သူတို့၏ ကျွမ်းကျင်မှု အရည်အချင်းများကို အဘယ်ကြောင့် အငှားအသုံးပြုနေကြပါသနည်း။ ဘာသာတရား (religion) တွင် ကျိုးကြောင်းဆင်ခြင်မှုနှင့် ပညာဉာဏ်တို့ကို ချစ်ခင်ခြင်း၊ ယုံကြည်ခြင်း စသည့် စိတ်ပိုင်းဆိုင်ရာတို့၏ ဆန့်ကျင်ဘက်သဖွယ် သဘောထားခဲ့ကြပါသည်။ သိပ္ပံပညာရပ်တွင် ချစ်ခြင်း၊ ယုံကြည်ခြင်း စသည့် စိတ်လှုပ်ရှားမှုဆိုင်ရာများကို ကျိုးကြောင်းဆက်စပ်မှု၊ မှန်ကန်စွာခန့်မှန်းမှုတို့၏ ဆန့်ကျင်ဘက် ရန်သူများအဖြစ် ရှုမြင်သုံးသပ်ပါသည်။ လက်တွေ့တွင် သိပ္ပံပညာ တိုးတက်လာပြီး ဘာသာရေးအမြင်များမှာ ကျဆင်းလျော့ရှိပါသည်။ သို့သော် ဗုဒ္ဓလမ်းစဉ်မှာမူကား လူသားသည် ပြည့်စုံသည့် လူသားအဖြစ် ရပ်တည်နိုင်ဖို့ မေတ္တာနှင့်ပညာကို ပွားများ တိုးတက်စေရမည်ဟု ညွှန်ပြထားပါသည်။ ဗုဒ္ဓ၏ ညွှန်ပြမှုများသည် တရားသေသဘော မဟုတ်ပါ။ အတွေ့အကြုံပေါ်တွင်မူတည်၍ ဆုံးမညွှန်ပြချက်များသာ ဖြစ်ပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာသည် သိပ္ပံအယူအဆကိုလည်း ကြောက်စရာမလိုပါပေ။

**မေး။ ဗုဒ္ဓဘာသာအလိုအရ ပညာဆိုသည်မှာ အဘယ်ပါလဲ။**

ဖြေ။ အမြင့်ဆုံးသော ဉာဏ်ပညာ ဆိုသည်မှာ လောကတွင်

ဖြစ်ပျက်နေသမျှ၊ ထိတွေ့နေသမျှ အရာရာတို့သည် မပြည့်စုံမှု၊ မမြဲမှု၊ ငါမဟုတ်မှု သဘောကို မှန်ကန်စွာ သိမြင်ခြင်းပင်ဖြစ်ပါသည်။ ဤကဲ့သို့ နားလည်မှုသည် လုံးဝလွတ်မြောက်မှုကို ဖြစ်စေပြီး လုံခြုံမှု၊ ချမ်းမြေ့မှုတို့သို့ ဦးတည်ပြီး နိဗ္ဗာန်သို့ ပို့ဆောင်နိုင်ပါသည်။ သို့သော်လည်း ဗုဒ္ဓသည် ဤအဆင့် ပညာ အကြောင်းကို များများမပြောပါ။ ပြောသမျှကို သေသေချာချာမစဉ်းစားဘဲ၊ ကိုယ်တိုင်မကျင့်ဘဲ လက်ခံယုံကြည်ခြင်းသည် ပညာမဟုတ်ပေ။ စစ်မှန်သောပညာဆိုသည်မှာ ကိုယ်တိုင်ကျင့်ကြံအားထုတ်ပြီး ကိုယ်တိုင် တိုက်ရိုက်ထိတွေ့ သိရသော အသိပညာသာလျှင် ဖြစ်ပါသည်။ ဤအဆင့် ဉာဏ်ပညာရဖို့အတွက် စိတ်ကိုဖွင့်ထားရပါမည်။ စိတ်ကို ချုပ်ပိတ်ထားရှဲ မရပါ။ အခြားလူများ၏ အယူအဆ၊ အမြင်များကိုလည်း နားထောင်နိုင်ရပါမည်။ မိမိအယူအဆကိုသာလျှင် တရားသေ ဆုပ်ကိုင်ထားမှုမျိုးကိုလည်း ရှောင်ရှားရပါမည်။ မိမိ၏ ယုံကြည်မှုများနှင့် ဆန့်ကျင်သော အယူအဆများကိုလည်း သေသေချာချာ လေ့လာစူးစမ်းဖို့လိုပါသည်။ မိမိ ယုံကြည်ချက်ကို တရားသေကိုင်ထားပြီး ကိုယ့်ခေါင်းကို သဲနက်နက်ထဲတွင် နစ်မြှုပ်ထားဖို့မဟုတ်ပါ။ ဘက်လိုက်သည့်သဘောကင်းပြီး ဓမ္မဓိဋ္ဌာန်ကျကျ ရှုမြင်နိုင်ဖို့ လိုပါသည်။ ကိုယ်တိုင် အတွေးအမြင် အယူအဆများကို အချိန်ယူပြီး ဆန်းစစ်ဖို့လိုပါသည်။ ပေးသမျှ၊ ကြားရသမျှထဲမှ စိတ်လှုပ်ရှားမှု အဖြစ်ဆုံး၊ ပထမဆုံး အတွေးအမြင်များကို လက်ခံခြင်း





သက်သက်မျိုးမဖြစ်ရန် အထူးလိုပါမည်။

မည်သို့ပင် ယုံကြည်ထားစေကာမူ ထိုယုံကြည်ချက်နှင့် ဆန့်ကျင်နေသော အချက်အလက်၊ အဖြစ်အပျက်များ ကြုံတွေ့လာရပါက မိမိ၏ ယုံကြည်ချက်များကို ပြင်ဆင်ရန် အသင့်အနေအထားတွင် အစဉ်ရှိရပါမည်။ ဤကဲ့သို့သော သဘောရှိသူသည် ပညာရှိသူဖြစ်၍ တဖြည်းဖြည်း အမှန်တရားကို နားလည်နိုင်သူဖြစ်လာပါသည်။ ပြောသမျှကို ယုံကြည်လိုက်သည်ဆိုသည်မှာ အလွန်လွယ်ကူသော ကိစ္စဖြစ်ပါသည်။ သို့သော် ဗုဒ္ဓညွှန်ကြားသောလမ်းကို သက်ဝင်ယုံ ကြည်ဖို့မှာ ရဲရင့်မှုသတ္တိ၊ သည်းခံမှု၊ အပြောင်းအလဲအပြုပြင်ခံနိုင်မှု ဉာဏ်ပညာစွမ်းရည်များ များစွာလိုအပ်ပါသည်။

**မေး။ လူနည်းစုသာလျှင် ဗုဒ္ဓလမ်းစဉ်ကို လိုက်နိုင်သည်ဟု ထင်ပါသည်။ လူနည်းစုသာ လိုက်နာနိုင်ခဲ့လျှင် ဗုဒ္ဓဘာသာ၏ အဓိကအချက်မှာ ဘာပါလဲ။**

ဖြေ။ မှန်ပါသည်။ လူတိုင်းသည် ဗုဒ္ဓဘာသာဝင်ဖြစ်ရန် အဆင်သင့် မဖြစ်နိုင်ကြပါ။ သို့ဖြစ်လျှင် လွယ်လင့်တကူ နားလည်နိုင်ပြီး လွယ်လွယ်ကျင့်နိုင်သော၊ မှားသော ဘာသာအယူကို လိုက်နာရတော့မှာလားဟု မေးစရာဖြစ်လာပါသည်။ ထိုသို့မဟုတ်ပါ။ ဗုဒ္ဓဘာသာသည် အမှန်တရားရဖို့ ရည်မှန်းပါသည်။ လူတိုင်းသည် ထိုသဘောကို နားလည်နိုင်သော စွမ်းရည်မရှိသေးလျှင် သူတို့၏ နောင်ဘဝများတွင် နားလည်နိုင်

ရန် အသင့်ဖြစ်နိုင်ပါသေးသည်။ သို့သော် မှန်သောစကား မှန်သောအားပေးမှု အနည်းငယ်ပြုလုပ်လိုက်သဖြင့် အမှန် တရားကို နားလည်နိုင်သောလူ များစွာရှိခဲ့ပါသည်။ ထို့ကြောင့် ပင်လျှင် ဗုဒ္ဓဘာသာဝင်တို့သည် ဗုဒ္ဓ၏ ထိုးထွင်းသိမြင်မှုများ ကို အခြားလူများအား ညင်ညင်သာသာ အေးအေးဆေးဆေး မျှဝေပြောပြရန် ကြိုးစားအားထုတ်ကြခြင်း ဖြစ်ပါသည်။ ဗုဒ္ဓသည်ကျွန်ုပ်တို့အား မေတ္တာတရား၊ မဟာကရုဏာတရား ရှေ့ထားပြီးသွန် သင်ညွှန်ပြပါသည်။ ကျွန်ုပ်တို့ကလည်း အခြားလူများအပေါ် မေတ္တာတရားရှေ့ထားပြီး ဗုဒ္ဓအဆုံးအမကို ပြောပြကြပါသည်။

**မေး။ ကျွန်တော်တို့ ဆွေးနွေးနေတာ မေတ္တာအကြောင်း ရောက်လာတော့ ဗုဒ္ဓအလိုကျ မေတ္တာဆိုတာ ဘယ်လို သဘောပါလဲ။**

ဖြေ။ ပညာသည် သဘာဝတရားနှင့် ပတ်သက်၍ နားလည်မှု၊ အသိရှိမှုများ ပါဝင်သကဲ့သို့ပင် မေတ္တာတရားသည် စိတ်လှုပ် ရှားမှုဆိုင်ရာ၊ စိတ်ခံစားမှုဆိုင်ရာသဘောများ ပါဝင်ပါသည်။ ပညာကဲ့သို့ပင် မေတ္တာတရားသည် လူသားတို့၌သာ တွေ့ရ သောထူးခြားသည့် အရည်အသွေးတစ်ရပ်ပင် ဖြစ်ပါသည်။ မေတ္တာဟုခေါ်သောသဘောတွင် လူအချင်းချင်း ကြီးမားသော ခံစားမှုသဘောထားခြင်း ပါဝင်ပါသည်။ လူတစ်ဦးတစ်ယောက် ဒုက္ခရောက်နေသည်ကို တွေ့မြင်သောအခါ ထိုသူခံစားနေရ





သော ဒုက္ခများကို မိမိကိုယ်တိုင် ခံစားနေရသကဲ့သို့ စိတ်ထဲတွင် ကိုယ်ချင်းစာနာခြင်း၊ ဒုက္ခခံစားနေရသူ၏ ဒုက္ခများ လျော့ပါး ပပျောက်စေခြင်းအကျိုးငှာ ကူညီဆောင်ရွက်ပေးခြင်းသည် မေတ္တာလွှမ်းသော လုပ်ရပ်များပင် ဖြစ်ပါသည်။ လူသားတို့ တွင်ရှိသော ကောင်းမွန်မြင့်မြတ်သည့် အရည်အသွေးများ ဖြစ်သည့် ပေးကမ်းစွန့်ကြဲခြင်း၊ မျှဝေခံစားခြင်း၊ အခြားသူများ သက်သာအဆင်ပြေမှုအတွက် ဆောင်ရွက်ရန် အဆင်သင့် ရှိခြင်း၊ ကြင်နာသနားတတ်ခြင်း၊ ဂရုစိုက်ခြင်း၊ အလေးအနက် ထည့်သွင်းစဉ်းစားပေးခြင်း စသည့် ဗုဒ္ဓကိုယ်တိုင် ကျင့်ကြံ ပွားများခဲ့သော အရည်အသွေးအားလုံးသည် မေတ္တာပင်ဖြစ် ပါသည်။ မေတ္တာစိတ်ပွားများသော ပုဂ္ဂိုလ်တိုင်းသည် အခြား သူများအပေါ် ဂရုစိုက်ခြင်း၊ ချစ်ခင်လေးစား မေတ္တာထားခြင်း တို့သည် မိမိကိုယ်ကို ဂရုစိုက်မှု၊ လေးစားချစ်ခင် တန်ဖိုးထားမှု အခြေပြုပါသည်။ ကျွန်ုပ်တို့သည် မိမိကိုယ်ကို သေသေချာချာ နားလည်ခဲ့လျှင် အခြားလူများကိုလည်း သေသေချာချာ နားလည်လာမည်ဖြစ်ပါသည်။ မိမိအတွက် ဘယ်အရာက အကောင်းဆုံးဖြစ်သည်ကို ကောင်းစွာ နားလည်ထားသော ပုဂ္ဂိုလ်တစ်ဦးသည် အခြားလူများအတွက်လည်း ဘယ်အရာက အကောင်းဆုံးဖြစ်သည်ကို ကောင်းစွာ နားလည် သိရှိနိုင်ပါ သည်။ မိမိအတွက် ခံစားတတ်သော ပုဂ္ဂိုလ်သည် အခြားသူ များအတွက်လည်း ခံစားတတ်ပါသည်။ ဗုဒ္ဓဘာသာ အယူ အဆသဘောတွင်လည်း လူသည် မိမိ၏စိတ်ထား ဖြူစင်

ဖွံ့ဖြိုးတိုးတက်၍ အသိအလင်း ပွင့်ထွက်သွားသည်နှင့်အမျှ အခြားသူများ ကောင်းကျိုးအတွက်အာရုံစူးစိုက် ဆောင်ရွက်ခြင်းသဘောသည် သဘာဝအတိုင်း ဖြစ်လာရသည်ကို အလေးအနက် ဖော်ပြထားပါသည်။ ဗုဒ္ဓ၏ ဘဝသည် ထိုသဘောကို စံနမူနာ ပြထားပါသည်။ ဗုဒ္ဓသည် မိမိ၏ လွတ်မြောက်ရေးအတွက် ခြောက်နှစ်တိုင်တိုင် လေ့ကျင့်အားထုတ်ခဲ့ပါသည်။ ကိုယ်တိုင်လွတ် မြောက်ပြီးသောအခါ ဗုဒ္ဓသည် လူသားများ အကျိုးအတွက် အချိန်ပြည့် အကျိုးပြု ဆောင်ရွက်တော်မူခဲ့ပါသည်။

**မေး။ မိမိအတွက် လိုအပ်သော ကုသိုလ်ဆောင်ရွက်မှုများ ပြုလုပ်ပြီးမှသာလျှင် အခြားလူများအား အကောင်းဆုံး ကူညီနိုင်သည်ဟု ဆိုလိုပါသလား။ ထိုသဘောသည် တစ်ကိုယ်ကောင်းဆန်သည်ဟု မဆိုနိုင်ဘူးလား။**

ဖြေ။ မိမိအကျိုးထက် အများအကျိုးကို ရှေးရှုဆောင်ရွက်ခြင်းနှင့် အများအကျိုး မပြုလုပ်မီ မိမိအကျိုးအတွက် ဆောင်ရွက်ခြင်းတို့သည် တစ်ခုနှင့်တစ်ခု ဆန့်ကျင်ဘက်သဘော ဆောင်သည်ဟု မြင်တတ်ကြပါသည်။ ဗုဒ္ဓအလိုအရ မိမိအကျိုးငှာ ဆောင်ရွက်ခြင်းနှင့် အများအကျိုးငှာ ဆောင်ရွက်ခြင်းများကို သီးခြားခွဲ၍ မဖြစ်နိုင်ပါ။ ၎င်းတို့နှစ်မျိုးကို ရောပြွမ်းပေါင်းစပ်၍သာလျှင် ရှုမြင်ပါသည်။ အခြားလူများကို မိမိနှင့်မခြား မေတ္တာထားပြီး မိမိနှင့်မခြား သဘောထားသောအခါ မိမိ





ကောင်းကျိုးအတွက် ဆောင်ရွက်ခြင်းသည် အခြားသောသူများအတွက်ဆောင်ရွက်ဖို့ရန် ပျိုးထောင်လေ့ကျင့်နေခြင်းသာ ဖြစ်လာပါတော့သည်။ ဤသဘောသည် တကယ် စစ်မှန်သော မေတ္တာသဘောပင် ဖြစ်ပါသည်။ ဗုဒ္ဓ၏ ညွှန်ပြမှု သရုပ္တွင် မေတ္တာသဘောနှင့် ပတ်သက်သော ညွှန်ပြမှုသည် အလှပဆုံးသော ရတနာတစ်ပွင့်ပင် ဖြစ်ပါသည်။

**မေး။ဗုဒ္ဓဘာသာဝင်တို့သည် သက်သတ်လွတ်သာလျှင် မှီဝဲစားသုံးသင့်သည်ဟု ဆိုသင့်ပါသလား။**

ဖြေ။ ထိုကဲ့သို့ မဆိုသင့်ပါ။ ဗုဒ္ဓကိုယ်တိုင်သည်ပင်လျှင် သက်သတ်လွတ် မှီဝဲသူ မဟုတ်ခဲ့ပါ။ ဗုဒ္ဓသည် သူ၏တပည့်များအား သက်သတ်လွတ်စားသုံးရန် ညွှန်ကြားသင်ပြခြင်း မပြုခဲ့ပါ။ မျက်မှောင်ကာလတွင်လည်း သက်သတ်လွတ် စားသုံးသူ မဟုတ်သော်လည်း ကောင်းမွန်မြင့်မြတ်သော ဗုဒ္ဓဘာသာဝင် မြောက်မြားစွာရှိနေပါသည်။

**မေး။ အကယ်၍ အသားကိုစားနေပါလျှင် ထိုသတ္တဝါသေဆုံးဖို့အတွက် စားသုံးသူတွင် သွယ်ဝိုက်သောနည်းအားဖြင့် တာဝန်မရှိဘူးလား။ တာဝန်ရှိနေပါလျှင် သူ့အသက် သတ်ခြင်းမှ ရှောင်ပါ၏ ဟူသော ပထမဆုံးသော သီလကို ချိုးဖောက်ရာ မရောက်ဘူးလား။**

ဖြေ။ သင်သည် အသားစားသောအခါ ထိုသတ္တဝါ၏

သေမှုတွင် သွယ်ဝိုက်သောနည်းအားဖြင့်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ အားဖြင့်လည်းကောင်း သင့်တွင် တာဝန်ရှိသည်ဆိုသည်မှာ မှန်ပါသည်။ အသားစားမှုသာ မဟုတ်ပါ။ အသီးအရွက်ကို စားသည့်အခါတွင်လည်း စားသူသည် သတ္တဝါများ သေဆုံးမှုအတွက် သွယ်ဝိုက်သောနည်းအားဖြင့် တာဝန်ရှိနေပါသည်။ စိုက်ပျိုးရေးသမားတို့သည် အသီးအရွက်များ ပိုးမွှားအန္တရာယ်မှ ကာကွယ်ရန်အတွက် ပိုးသတ်ဆေးများကို ပက်ဖျန်းရပါသည်။ လူတို့အသုံးပြုသော ဖိနပ်၊ ခါးပတ်၊ လက်ကိုင်အိတ်၊ ဆပ်ပြာတွင်ထည့်ရသောဆီ စသည် စသည်များအတွက် သတ္တဝါများ သတ်ဖြတ်သေကြေမှု၊ ပျက်စီးမှုတို့တွင် သွယ်ဝိုက်သော နည်းအားဖြင့် တာဝန်ရှိနေကြပါသည်။ ဤသဘောတရားသည်ပင် သစ္စာတရားလေးပါးအနက် သာမန် သက်ရှင်နေထိုင်ခြင်းသည် ဆင်းရဲ၏။ ဒုက္ခအတိပြီး၏။ ကျေနပ်နှစ်သက်စရာမရှိဟူသော သဘောကို သက်သေပြနေသောအချက် ဖြစ်ပါသည်။ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း သီလကို ကောင်းစွာစောင့်ထိန်းသောအခါ သတ္တဝါ၏ အသက်ကို တိုက်ရိုက်သတ်ဖြတ်မှုမှ ကြီးစားရှောင်ရှားခြင်းပင် ဖြစ်ပါသည်။

**မေး။ မဟာယာန ဗုဒ္ဓဘာသာဝင်များသည် အသားမစားကြသည်မှာ မှန်ပါသလား။**

ဖြေ။ ဤအချက်မှာ မမှန်ကန်ပါ။ တရုတ်ပြည်တွင် ထွန်းကားသော မဟာယာနဗုဒ္ဓဘာသာတွင် သက်သတ်လွတ် စားသုံးကြရန် အလေးအနက် တိုက်တွန်းအားပေးချက်ရှိပါသည်။ သို့သော် တိဘက် နှင့် ဂျပန်နိုင်ငံရှိ မဟာယာန ဗုဒ္ဓဘာသာဝင် ဘုန်းကြီးများနှင့် လူများသည် အသားကို စားကြပါသည်။

**မေး။ ဗုဒ္ဓဘာသာဝင်တစ်ဦးအဖို့ သက်သတ်လွတ်သာ စားသုံးသင့်သည်ဟု ကျွန်ုပ်အနေဖြင့် ယူဆနေဆဲ ဖြစ်ပါသည်။**

ဖြေ။ ဟုတ်ပါပြီ။ လူနှစ်ဦးရှိရာတွင် တစ်ဦးမှာ အသားမစား၊ သစ်သီးသစ်ဥကိုသာလျှင် စားသုံးပါသည်။ သို့သော် တစ်ကိုယ်ကောင်းဆန်သည်။ မရိုးမဖြောင့်ကျင့်သည်။ ယုတ်ညံ့သေးသိမ်သောအကျင့် ကျင့်ကြံသည်ဆိုပါစို့။ အခြားတစ်ဦးမှာ အသားကို စားသည်။ သို့သော် အခြားလူများအတွက် ကိုယ်ချင်းစာတရား ရှေ့ထားသည်။ ရိုးသားဖြောင့်မတ်သည်။ ကြင်နာသနား တတ်သည် ဆိုပါစို့။ ထိုလူနှစ်ဦးတွင် မည်သူသည် ပိုမိုကောင်းသော ဗုဒ္ဓဘာသာဝင်ဖြစ်ပါသလဲ။

(မေးသူ) ရိုးသား၍ ကြင်နာသောလူသည် ဗုဒ္ဓဘာသာဝင်ကောင်း ဖြစ်ပါသည်။

(ဖြေသူ) ဘာကြောင့်ပါလဲ။

(မေးသူ) အဖြေမှာ ရှင်းပါသည်။ ရိုးသား၍ ကြင်နာသောသူသည် စိတ်နှလုံးကောင်းရှိသူ ဖြစ်ပါသည်။

ဖြေ။ သိပ်မှန်ပါသည်။ အသားစားသောသူသည် ဖြူစင်သော နှလုံးသား ရှိနိုင်သကဲ့သို့ပင် အသားမစားသော သူတွင်လည်း မဖြူစင်သော နှလုံးသား ရှိနိုင်ပါသည်။ ဗုဒ္ဓ၏ ညွှန်ပြ သွန်သင်မှုတွင် အရေးကြီးသည်မှာ သင်စားသောအစာတွင် ပါဝင်သော အစားအစာ အမျိုးအစားများ မဟုတ်ပါ။ စိတ်နှလုံး အရည်အချင်းကောင်းမွန်မှုသာလျှင် အဓိကဖြစ်ပါသည်။ အချို့သော ဗုဒ္ဓဘာသာဝင်တို့သည် အသားမစားဘဲ ရှောင်ရှား ရန် အလွန်ဂရုစိုက်ကြပါသည်။ သို့သော် တစ်ကိုယ်ကောင်း ဆန်ခြင်း၊ မရိုးသား မဖြောင့်မတ်ခြင်း၊ ရက်စက်ကြမ်းကြုတ် ခြင်း၊ မနာလိုဝန်တိုခြင်းတို့မှ ရှောင်ရှားကင်းဝေးရန်မူ ဂရုမစိုက်တတ်ကြပါ။ သူတို့သည် ပြောင်းရန်လွယ်ကူသော စားသောက်သည့် အစားအစာကိုသာ ပြောင်းကြပါသည်။ သို့သော် ပြောင်းရန်ခက်ခဲသော စိတ်နှလုံးသား အရည်အသွေး မြင့်မားတိုးတက်အောင်မူ မဆောင်ရွက်ကြပါ။ အသားစားသူ ပင်ဖြစ်စေ၊ သက်သတ်လွတ် မှီဝဲသုံးဆောင်သူပင်ဖြစ်စေ ဗုဒ္ဓဘာသာတွင် အရေးကြီးဆုံးမှာ စိတ်ထားဖြူစင်ဖို့ပင် ဖြစ်ပါသည်။

၀



## ကံကောင်းခြင်း

မေး။ မျက်လှည့်ကိစ္စ၊ ဗေဒင်ဟောပြောခြင်း ကိစ္စများနှင့် ပတ်သက်၍ ဗုဒ္ဓက မည်သို့ညွှန်ကြားခဲ့ပါသလဲ။

ဖြေ။ ဗေဒင်တွက်ခြင်း၊ အန္တရာယ်ကင်း အဆောင်အယောင် များ ဝတ်ဆင်ခြင်း၊ အဆောက်အအုံများအတွက် နေရာကောင်း ရွေးချယ်ခြင်း၊ နေ့ကောင်းရက်သာရွေးခြင်း စသည့် အလေ့ အကျင့်များမှာ အသုံးမကျသော စွဲလမ်းမှုများသာဖြစ်၍ ဗုဒ္ဓက သူ၏တပည့်များအား ထိုအလေ့အကျင့်များမှ ရှောင်ရှားကြရန် ညွှန်ကြားမှာကြားခဲ့ပါသည်။ ဤအမှုအားလုံးကို ဗုဒ္ဓက နိမ့်ကျသောအတတ်များဟု ခေါ်ခဲ့ပါသည်။ ဤနည်းများဖြင့် အသက်မွေးမှုများကိုလည်း မှားယွင်းသော အသက်မွေးမှုဟု ဗုဒ္ဓက ညွှန်ပြခဲ့ပါသည်။

မေး။ ဗုဒ္ဓက ထိုကဲ့သို့ တိတိကျကျညွှန်ကြားပါလျက် ဗုဒ္ဓ ဘာသာဝင်တော်တော်များများက ထိုအလေ့အကျင့်များ ကို အဘယ်ကြောင့် ယုံယုံကြည်ကြည်လုပ်ဆောင်နေကြပါ သနည်း။

ဖြေ။ လောဘကြီးမှု၊ ကြောက်ရွံ့မှုနှင့် အမှန်မသိမှုများကြောင့်ဖြစ်ပါသည်။ ဗုဒ္ဓ၏ ဆုံးမညွှန်ကြားမှုများကို ကောင်းစွာနားလည် သဘောပေါက်သွားသောအခါတွင် ဖြူစင်မှန်မြတ်သော စိတ်နှလုံး ပိုင်ဆိုင်ခြင်းသည် အင်းတစ်ချပ်၊ လက်ဖွဲ့တစ်ခု၊ မန္တန်တစ်ပုဒ်ထက် အကာအကွယ် ပေးနိုင်ကြောင်း ကောင်းစွာ သဘောပေါက်လာပြီး ထိုကိစ္စများတွင် အားကိုးမရှာကြတော့ပေ။ ဗုဒ္ဓအလိုအရ ရိုးသားမှု၊ ကြင်နာသနားတတ်မှု၊ နားလည်တတ်မှု၊ သည်းခံခွင့်လွှတ်တတ်မှု၊ ပေးကမ်းစွန့်ကြဲတတ်မှု၊ သစ္စာရှိမှုနှင့် အခြားအခြားသော စိတ်နှလုံးကောင်း အရည်အသွေးများသည် လူတို့အား အကာအကွယ် အကောင်းဆုံး ပေးမည်ဖြစ်ပြီး ကြီးပွားတိုးတက်ခြင်းကို ပေးဆောင်မည် ဖြစ်ပါသည်။

**မေး။ သို့သော်လည်း တချို့သောအန္တရာယ်ကင်းအဆောင်တို့သည် အစွမ်းထက်တတ်သည် မဟုတ်ပါလော။**

ဖြေ။ အန္တရာယ်ကင်း အဆောင်များ ပြုလုပ်ရောင်းစားခြင်းဖြင့် အသက်မွေးမှုပြုသူတစ်ဦးအား သိခဲ့ဖူးပါသည်။ သူ၏အဆောင်များသည် ကံကောင်းမှု၊ ကြီးပွားတိုးတက်မှု ဖြစ်စေသည်ဟု ထိုသူက ဆိုပါသည်။ သူ၏အဆောင်ကို ရသူသည် ဂဏန်းသုံးလုံးအထိ ဝင်ငွေရနိုင်လိမ့်မည်ဟု ကတိပေးထားပါသည်။ အကယ်၍သာ သူ့ပြောဆိုချက်များသည် မှန်ကန်ခဲ့ပါလျှင် သူကိုယ်တိုင် အဘယ့်ကြောင့် သန်းပေါင်းများစွာ ကြွယ်ဝ





ချမ်းသာသော သူဌေးကြီး မဖြစ်ပါသလဲ။ သူ၏ အဆောင်များသည် အမှန်တကယ် ကယ်တင်နိုင်သည်ဆိုပါက သူကိုယ်တိုင် အဘယ့်ကြောင့် ထီအပတ်တိုင်း မပေါက်ပါသနည်း။ အဆောင်ရောင်းသူ၏ ကံကောင်းမှုမှာ သူရောင်းသောအဆောင်များကို လာရောက်ဝယ်ယူရန် စဉ်းစားဉာဏ်နည်းသူများ ရှိနေခြင်းပင် ဖြစ်ပါသည်။

**မေး။ ကံကြမ္မာဆိုသည်မှာ ရှိပါသလား။**

ဖြေ။ အဘိဓာန်တွင် 'ကံကြမ္မာ' ကို 'လူတစ်ဦး၏ ဘဝတွင် အကောင်းအဆိုး ဖြစ်ပျက်သမျှတို့သည် ကံကြောင့်သာ ဖြစ်သည်ဟု သက်ဝင်ယုံကြည်မှု' ဟု ဖွင့်ဆိုထားပါသည်။ ဗုဒ္ဓက ကံအကြောင်းနှင့် ပတ်သက်၍ တိတိကျကျ ဖော်ပြထားပါသည်။ လောကတွင် ဖြစ်ပျက်သမျှတိုင်း၌ အကြောင်းတရားရှိပြီး အကြောင်းတရားနှင့် အကျိုးတရားတို့တွင် ကျိုးကြောင်းဆက်သွယ်ချက်အမြဲရှိသည်ဟု ဗုဒ္ဓက ညွှန်ပြထားပါသည်၊ ဥပမာအားဖြင့် ဖျားနာခြင်း ဖြစ်လာသည်မှာ လုံလောက်သော အကြောင်းရှိပြီး ဖြစ်လာခြင်းဖြစ်ပါသည်။ ရောဂါဖြစ်စေသော ပိုးမွှားများနှင့် ဆက်စပ်မှုရှိပြီး ထိုရောဂါပိုးမွှားများကို ခုခံနိုင်စွမ်းသော ကိုယ်ခံစွမ်းအားမရှိဘဲ ကိုယ်ခံစွမ်းအား ပျော့ညံ့နေသော အခါမျိုးတွင် ဖြစ်တတ်ပါသည်။ ဤနေရာတွင် ရောဂါဖြစ်စေသော ပိုးမွှားများနှင့် ထိတွေ့ရခြင်းနှင့် ကိုယ်ခံအင်အားနည်းနေခြင်းသည် အကြောင်းဖြစ်ပြီး ဖျားနာရခြင်းသည်

အကျိုးဖြစ်ပါသည်။ အကြောင်းနှင့် အကျိုးတို့သည် ဆက်သွယ်ချက် ရှိနေပါသည်။ ရောဂါ ဖြစ်စေသော ပိုးမွှားတို့သည် လူ၏ခုခံအားနည်းသော ကိုယ်ခန္ဓာကို တိုက်ခိုက်ရာမှ များနာခြင်း ဖြစ်ပေါ်လာရပါသည်။ သို့သော် စာရွက်ငယ်တစ်ခုပေါ်တွင် ရေးထားသော စာလုံးများနှင့် ကြီးပွားချမ်းသာလာခြင်း၊ စာမေးပွဲအောင်ခြင်း စသည်တို့သည် ကျိုးကြောင်းဆက်စပ်မှု မရှိပါ။ ဗုဒ္ဓအလိုအရ လောကတွင် ဖြစ်ဖြစ်သမျှတို့သည် အကြောင်းတစ်ခု၊ သို့မဟုတ် အကြောင်းများ ဆုံစည်း၍သာ ဖြစ်ပေါ်လာရခြင်းဖြစ်ပါသည်။ ကံကို သူ့အလိုလိုဖြစ်ပေါ်လာသော အခွင့်အရေးတစ်ရပ်အဖြစ် ရှုမြင်သူတချို့က ငွေ နှင့် ပစ္စည်းဉစ္စာများ အလိုအလျောက် ကြီးပွားတိုးတက်မှုကို မျှော်ကိုးတတ်ကြပါသည်။ နှလုံးသား အရည်အချင်းများနှင့် စိတ်ပိုင်းဆိုင်ရာ အရည်အချင်းများ ဖွံ့ဖြိုးတိုးတက်အောင် ပျိုးထောင်လေ့ကျင့်ခြင်းသည်သာလျှင် အရေးကြီးကြောင်း ဗုဒ္ဓက မိန့်မှာပါသည်.

အတတ်ပညာကိုနက်နက်နဲနဲ သင်ယူတတ်မြောက်ကျွမ်းကျင်ထားခြင်း၊ စနစ်တကျ လေ့ကျင့်ထားခြင်း၊ ကောင်းမွန်စကားဆိုတတ်ခြင်းတို့သည် အကောင်းဆုံးသော ကံများဖြစ်သည်ဟု ဗုဒ္ဓက မိန့်မှာသွန်ပြခဲ့ပါသည်။

အမိအဖတို့အား ကျွေးမွေးထောက်ပံ့ခြင်း၊ ဇနီးနှင့် သားသမီးတို့အား ပြုစုစောင့်ရှောက်ခြင်း၊ ရိုးသားသော အသက်မွေးမှုကို ပြုလုပ်ခြင်းတို့သည် အကောင်းဆုံးသော





ကံများဖြစ်ပါသည်။

ပေးကမ်းစွန့်ကြဲတတ်ခြင်း၊ တရားမျှတခြင်း၊ ဆွေမျိုးမိတ်သင်္ဂဟများအား ကူညီခြင်း၊ အပြစ်မရှိသော အလုပ်ကို ပြုလုပ်ခြင်းတို့သည်အကောင်းဆုံးသော ကံများဖြစ်ပါသည်။ ရိုသေလေးစားထိုက်သူကို ရိုသေလေးစားခြင်း၊ မိမိကိုယ်ကို နှိမ့်ချခြင်း၊ ရောင့်ရဲတင်းတိမ်ခြင်း၊ ကျေးဇူးတရားသိတတ်ခြင်း၊ တရားဓမ္မများကို နာကြားခံယူခြင်းတို့သည် အကောင်းဆုံးသော ကံများဖြစ်ပါသည်။

၀

## ဗုဒ္ဓဘာသာဝင် တစ်ဦးဖြစ်ခြင်း

**မေး။ ယခု ရှင်းလင်း ပြောပြတာတွေက သိပ်ပြီး စိတ်ဝင်စားစရာ ကောင်းလှပါသည်။ အကယ်၍ ဗုဒ္ဓဘာသာဝင် တစ်ဦးဖြစ်လိုလျှင် မည်သို့ဆောင်ရွက်ရပါသနည်း။**

ဖြေ။ တစ်ခါက ဥပါလိအမည်ရသော ပုဂ္ဂိုလ်တစ်ဦး ရှိခဲ့ပါသည်။ သူသည် အခြားသော ဘာသာကို သက်ဝင်ယုံကြည်သူ ဖြစ်ပါသည်။ သူသည် ဗုဒ္ဓထံသွား၍ စူးစမ်းမေးမြန်းလိုသည်များကို စုံစမ်းမေးမြန်းပါသည်။ ထို့နောက် ဗုဒ္ဓ၏ အဆုံးအမများကို နှစ်သက်သဘောကျသဖြင့် သူ့အား ဗုဒ္ဓဘာသာဝင် အဖြစ် ပြောင်းပေးရန် တောင်းပန်ပါသည်။ ထိုသို့ တောင်းပန်သောအခါ ဗုဒ္ဓက အောက်ပါအတိုင်း မိန့်မှာပါသည်။

"ဦးစွာပထမ သေသေချာချာ လေ့လာပါဦး။ သင်ကဲ့သို့ ထင်ရှားသောပုဂ္ဂိုလ်များအဖို့ သေသေချာချာဦးစွာ လေ့လာမှု ပြုလုပ်ရန် လိုအပ်ပါသည်"

"ဦးစွာပထမ သေသေချာချာ လေ့လာပါဦးဟု အရှင်





ဘုရားက ပြောဆိုမိန့်ကြားလိုက်သဖြင့် တပည့်တော်သည် ပို၍ပင် ဝမ်းမြောက်ကြည်နူး နှစ်သက်အားရခြင်း ဖြစ်ရပါသည်။ အခြားသော ဘာသာဝင်များအနေဖြင့် ကျွန်တော်ကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို သူတို့ ဘာသာဝင် တပည့်နောက်လိုက်အဖြစ် လက်ခံရရှိလာခဲ့လျှင် 'ဥပါလိ တို့ဘာသာဝင်လာပြီ' ဟူသော ဆိုင်းဘုတ်ကို ကိုင်ဆောင်ပြီး အရပ်ထဲလှည့်၍ မောင်းထု ကြေညာမည် ဖြစ်ပါသည်"

သို့သော် ဗုဒ္ဓကမူ 'ဦးစွာ သေသေချာချာလေ့လာပါဦး၊ သေသေချာချာလေ့လာမှုသည် သင်ကဲ့သို့ ထင်ရှားသောပုဂ္ဂိုလ်များအဖို့ လိုအပ်ပါသည်' ဟု မိန့်ကြားပါသည်။

ဗုဒ္ဓဘာသာတွင် နားလည်မှုသည် အရေးကြီးပါသည်။ နားလည်အောင် အချိန်ယူဆောင်ရွက်ရပါသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်အဖြစ်သို့ အလောတကြီးဝင်ရန် စိတ်မစောပါနှင့်။ အချိန်ယူစဉ်းစားပါ။ သံသယဖြစ်စရာ မေးခွန်းများ မေးကြည့်ပါ။ သေသေချာချာ စဉ်းစားဆင်ခြင်ပါ။ ထိုသို့ ပြုလုပ်ပြီးမှသာလျှင် ဆုံးဖြတ်ချက်ကို ချမှတ်ပါ။ ဗုဒ္ဓသည် တပည့်နောက်လိုက် အရေအတွက်များခြင်းကို အလေးထားတော်မမူပါ။ ဗုဒ္ဓ၏ အဆုံးအမများကို လူများသေသေချာချာ လေ့လာခြင်း၊ စူးစမ်းလေ့လာခြင်းများ ပြုလုပ်ပြီးသောအခါ မှသာလျှင် သူ၏ညွှန်ပြမှုများကို နှစ်သက်သဘောကျ၍ လိုက်နာကျင့်ကြံ အားထုတ်ခြင်းကိုသာ လိုလားတော်မူပါ သည်။

**မေး။ ဟုတ်ကဲ့၊ ကျွန်တော့်အနေဖြင့် ဗုဒ္ဓညွှန်ပြမှု အဆုံးအမများကို သေသေချာချာ လေ့လာပြီး နှစ်မြို့က်လက်ခံနိုင်၍ ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူလိုလျှင် မည်သို့ပြုလုပ်ရပါသနည်း။**

ဖြေ။ အကောင်းဆုံးမှာ ဗုဒ္ဓဘာသာ အသင်းအဖွဲ့ တစ်ခုခုနှင့် ဆက်သွယ်ပြီး သူတို့၏ သာသနာ့ထွန်းကားရေးလုပ်ငန်းများတွင် ပါဝင်ကူညီခြင်း၊ သူတို့ထံမှ အကူအညီ ရယူခြင်း၊ ဗုဒ္ဓ၏ အဆုံးအမ လမ်းညွှန်မှုများကို ဆက်လက်၍ လေ့လာကျင့်ကြံအားထုတ်ခြင်းသာဖြစ်ပါသည်။ ထိုသို့လေ့လာပြီး ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ခဲ့လျှင် ဗုဒ္ဓဘာသာဝင် ဖြစ်ပါသည်။

**မေး။ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်ခြင်း ပြုနိုင်ရန် ရတနာသုံးပါးကို ရှင်းပြပါ။**

ဖြေ။ ကိုးကွယ်အားထား ဆည်းကပ်ရာဆိုသည်မှာ လူတို့သည် စိတ်ပျက်အားငယ်သည့်အခါ၊ လုံခြုံမှုလိုအပ်သည့်အခါ အားကိုးအားထား ချဉ်းကပ်ကိုးကွယ်သော နေရာဖြစ်ပါသည်။ ရတနာမြတ် သုံးမျိုးရှိပါသည်။ လူတို့သည် စိတ်ဆင်းရဲသည့်အခါ၊ စိတ်ညစ်သည့်အခါ သူငယ်ချင်းမိတ်ဆွေများထံတွင် ချဉ်းကပ်တတ်ကြသည်။ စိတ်သောကရောက်၍ ကြောက်ရွံ့ စိုးရိမ်သည့်အခါများတွင် လူတို့သည် မျှော်လင့်ချက်မျိုးစုံ၊ ယုံကြည်ချက်မျိုးစုံတို့ကို စဉ်းစားချဉ်းကပ် အားကိုးအားထား





ပြုကြပါသည်။ သေအံ့မူးမူးဖြစ်သောအခါမျိုးတွင် ထာဝရကောင်းကင်ဘုံ (အဂ္ဂလောက) ဟူသော ယုံကြည်ချက်ကို ကိုးကွယ်ဆည်းကပ်ကြပါသည်။ သို့သော် ထိုကဲ့သို့သော ယုံကြည်မှု၊ ချဉ်းကပ် ကိုးကွယ်မှုများသည် စစ်မှန်သော လုံခြုံမှု၊ သက်သာအေးငြိမ်းမှုကို ပေးဆောင်နိုင်ခြင်း မရှိသဖြင့် အမှန်တကယ် ကိုးကွယ်ဆည်းကပ်ထိုက်သော အရာများမဟုတ်ဟု ဗုဒ္ဓက ညွှန်ပြခဲ့ပါသည်။

အထက်ပါ ယုံကြည်ကိုးကွယ်မှုများသည် စစ်မှန် လုံခြုံသော ကိုးကွယ်ဆည်းကပ်မှုများ မဟုတ်ကြပါ။ ဤကိုးကွယ်ဆည်းကပ်မှုများသည် ဒုက္ခများမှ အမှန်တကယ်ကင်းဝေးအောင် ဆောင်ရွက်ပေးနိုင်ခြင်းမရှိပါ။

ဗုဒ္ဓ၊ ဓမ္မနှင့် သံဃာတို့၌ ချဉ်းကပ် ကိုးကွယ်ဆည်းကပ်ခြင်းတွင် သေသေချာချာနားလည်မှုဖြင့် ကိုးကွယ်ဆည်းကပ်ခြင်း၊ သစ္စာတရား ၄ ပါးကို ပိုင်းပိုင်းခြားခြား နားလည်လျက် ရတနာသုံးပါးတွင် သက်ဝင်ယုံကြည်ပြီး ကိုးကွယ်ချဉ်းကပ်ခြင်းသည်သာလျှင် စစ်မှန်သော ကိုးကွယ်ဆည်းကပ်ခြင်းဖြစ်ပါသည်။

ဆင်းရဲခြင်းအမှန်ဖြစ်သော ဒုက္ခသစ္စာ၊ ဒုက္ခ ဖြစ်စေသော သမုဒယသစ္စာ၊ ဒုက္ခအမှန်ချုပ်ငြိမ်းရာ နိရောဓသစ္စာနှင့် ဒုက္ခချုပ်ငြိမ်းရာ လမ်းကြောင်းဖြစ်သော မဂ္ဂသစ္စာ ဟူသော သစ္စာတရား ၄ ပါးကို ပိုင်းခြားထင်ထင် နားလည်သိမြင်ခြင်းသည်သာလျှင် စစ်မှန်သောကိုးကွယ်အားထားရာ ဖြစ်ပါသည်။

သစ္စာတရား ၄ ပါးကို နားလည်ပြီး ရတနာသုံးပါးအား ကိုးကွယ်ဆည်းကပ်ခြင်းသည်သာလျှင် မှန်ကန်မြင့်မြတ်သော ကိုးကွယ်ဆည်းကပ်မှု ဖြစ်ပါသည်။ ဤကိုးကွယ်ဆည်းကပ်မှုသည်သာလျှင် ဒုက္ခအပေါင်းမှ အမှန်တကယ် ကင်းဝေးချုပ်ငြိမ်းစေသော ကိုးကွယ်ဆည်းကပ်မှုဖြစ်ပါသည်။

ဗုဒ္ဓကို ကိုးကွယ်ရာအဖြစ် ဆည်းကပ်ခြင်းသည် ဗုဒ္ဓကဲ့သို့ပင် ဉာဏ်အလင်းရပြီး သံသရာမှ လွတ်မြောက်ရန် ပြည့်စုံသည့် အခြေအနေသို့ ရောက်ရှိနိုင်သည်ဟူသော သဘောကို ကောင်းစွာလက်ခံခြင်းမည်ပါသည်။

ဓမ္မတွင် သက်ဝင်ယုံကြည်ပြီး ကိုးကွယ်ဆည်းကပ်ခြင်းဆိုသည်မှာ သစ္စာတရား ၄ ပါးကို နားလည်ခြင်း၊ မဂ္ဂင်တရား ၈ ပါးနှင့်အညီ မိမိဘဝကို ရပ်တည်ခြင်းဟု အဓိပ္ပာယ်ရပါသည်။

သံဃာအား ကိုးကွယ်ဆည်းကပ်ခြင်း ဆိုသည်မှာ မဂ္ဂင်တရား ၈ ပါးနှင့်အညီ ကျင့်ကြံအားထုတ်နေကြသော ရဟန်းသံဃာတော်များထံမှ အထောက်အကူ လမ်းညွှန်မှုနှင့် အားတက်ဖွယ်ရာ၊ စိတ်ဓာတ်မြင့်မား ရင့်ကျက်စေရာ အားပေးလှုံ့ဆော်မှုများ ရယူခြင်းဖြစ်ပါသည်။

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ရတနာမြတ်သုံးပါးတို့အား ကိုးကွယ်ဆည်းကပ်ပူဇော်ခြင်းဖြင့် သင်သည် ဗုဒ္ဓဘာသာဝင်တစ်ဦး ဖြစ်လာပါသည်။ ဤနည်းဖြင့် ဗုဒ္ဓဘာသာဝင်တို့၏ အဆုံးစွန်သော ဦးတည်ချက်ဖြစ်သည့်





နိဗ္ဗာန်သို့ မျက်မှောက်ပြုရန် ပထမခြေလှမ်း စတင်လှမ်းရာသို့လည်း ရောက်ပါသည်။

**မေး။ ရတနာမြတ်သုံးပါးအား ကိုးကွယ်ဆည်းကပ်ပူဇော်ခြင်းဖြင့် သင့်ဘဝတွင် မည်ကဲ့သို့သော အပြောင်းအလဲများ ဖြစ်ပေါ်လာပါသနည်း။**

ဖြေ။ လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀ ခန့်ကတည်းက သန်းပေါင်းများစွာသောလူများ အကျိုးခံစားခဲ့ကြရသကဲ့သို့ပင် ဗုဒ္ဓ၏ သွန်သင်ညွှန်ပြချက်တို့သည် ဒုက္ခများမြောင် ဤလူ့ဘောင်မှ လွတ်မြောက် ဖို့အတွက် အဓိပ္ပာယ်ပြည့်ဝသော သဘောကိုဆောင်ကြသည်။ အဓိပ္ပာယ်မဲ့သော ဘဝကို အဓိပ္ပာယ်ပြည့်ဝအောင် လမ်းပြပေးနေသည်။ မိမိဘဝကို လူသားအမြင်၊ လူသားစိတ်ဓာတ်၊ မွန်မြတ်သော မေတ္တာဓာတ်ဖြင့် တည်ဆောက်နိုင်ဖို့ အခြေခံများကိုလည်း ဗုဒ္ဓ၏ လမ်းညွှန်မှုမှ ရခဲ့ပါသည်။ နောက်ဘဝတွင် စိတ်၏ဖြူစင် သန့်ရှင်းမှု၊ လုံးဝစင်ကြယ်ပြည့်ဝမှု ရရှိနိုင်သော နည်းလမ်းများကိုလည်း ဗုဒ္ဓ၏လမ်းညွှန်မှုများမှ ရရှိခဲ့ပါသည်။ ဗုဒ္ဓနှင့် ပတ်သက်၍ ရှေးအခါက အိန္ဒိယကဗျာဆရာကြီးတစ်ဦးက အောက်ပါအတိုင်း ကဗျာရေးစပ်ခဲ့ပါသည်။

'သူ့ထံသို့ ကိုးကွယ်ဆည်းကပ် ချဉ်းကပ်ရန်အလို့ငှာ သွားခြင်း၊ သူ့အား ဂုဏ်ပြုချီးကျူးပူဇော်ခြင်း၊ သူ၏ ညွှန်ပြသော တရားဓမ္မတို့ကို လေးစားလိုက်နာခြင်းတို့တွင် သေသေ

ချာချာ နားလည်ပြီးမှ ဆောင်ရွက်ရပါမည်'

အထက်ပါ ကဗျာဆရာကြီး၏ စကားများကို ကျွန်ုပ် လုံးဝလက်ခံပါသည်။

□□□